ပုံစံ(နသ-၁)

စာအမှတ် ၇၆၉-က

နေ့စွဲ ၁၁.၅.၂၀၀၀

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်...မ/နသ – ၃၈၂/၂၀၀၀   ၂၀၀၀ပြည့်နှစ် မေ လ ၂၂ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည်...ဦး ကျော်ဝင်း

(ခ) အဘအမည်...ဦး အောင်ညို

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ်...၁၂/တမန(နိုင်)၀၀၉၆၁၁

(ဃ) နေရပ်လိပ်စာ...အမှတ်၊ ၂၃၊ ခေမာသီ(၁)လမ်း၊ မိကျောင်းကန် အပိုင်း (၃)၊ သင်္ဃန်းကျွန်းမြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း...အမျိုးသားသစ်အချောထည် စက်မှုလီမိတက် (National Wood Industry Ltd)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား...သစ်အခြေခံစက်မှုလုပ်ငန်း (သစ်အချောထည်များ ထုတ်လုပ်ဖြန့်ဖြူးခြင်း)

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ)...မန္တလေးတိုင်း၊ ပျဉ်းမနားမြို့နယ်၊ ရွာကောက် ရပ်ကွက်၊ ၄ ဝါလမ်းနှင့်နှင်းဆီလမ်းကြား၊ ၂၆လမ်းနှင့် ၂၇လမ်းကြားအကွက်အမှတ်နှင့်အမည် – ၃၂/ပေါင်းလောင်း(..)ဦးပိုင်အမှတ်(၂၂၂၂၊ ၂၂၂၃၊ ၂၂၂၄၊ ၂၂၂၅၊ ၂၂၂၆၊ ၂၂၂၇၊ ၂၂၂၈၊ ၂၂၂၉၊ ၂၂၃၀၊ ၂၂၃၁)

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်)...(၅၂.၂၀)သန်း (ငါးဆယ့်နှစ်သန်းနှစ်သိန်းတိတိ)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၃၀ ၂/၂၀၀၀ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၂ ခုနှစ်၊ ကဆုန်လဆန်း ၉ ရက်။
(၂၀၀၀ ပြည့်နှစ်၊ မေလ ၁၂ ရက်)

၁။ မြန်မာ ကုမ္ပဏီ ဖြစ်သော အမျိုးသား သစ်အချောထည် စက်မှု လီမိတက် (National Wood Industry Ltd.) တည်ထောင်၍ ကမကထပြုသူ ဦးကျော်ဝင်း အမည်ဖြင့် စီးပွားဖြစ် လုပ်ကိုင်ရန်ချပေးထားသော မန္တလေးတိုင်း၊ ပျဉ်းမနားမြို့နယ်၊ ရွာကောက်ရပ်ကွက်၊ ၂၆ လမ်း နှင့် ၂၇ လမ်းကြား၊ ၄၀လမ်း နှင့် နှင်းဆီလမ်းကြား၊ ပေါင်းလောင်း (၂)၊ အကွက် အမှတ်-၃၂၊ မြေကွက် အမှတ် (၂၂၂၂၊ ၂၂၂၃၊ ၂၂၂၄၊ ၂၂၂၅၊ ၂၂၂၆၊ ၂၂၂၇၊ ၂၂၂၈၊ ၂၂၂၉၊ ၂၂၃၀၊ ၂၂၃၁)ရှိ ရမည်းသင်းခရိုင် အထွေထွေ အုပ်ချုပ်ရေးဦးစီးဌာနပိုင် မြေ(၀.၉၉)ဧက (၄၀၀၆.၃၉ စတုရန်းမီတာ)ပေါ်တွင် သစ်အခြေခံစက်မှုလုပ်ငန်း (သစ်အချောထည်များထုတ်လုပ်ဖြန့်ဖြူးခြင်း)ကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၁၁-၂-၂၀၀၀)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၄/၂၀၀၀)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၃၁-၃-၂၀၀၀)နေ့တွင် ကျင်းပသော ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၅/၂၀၀၀)ကြိမ်မြောက် အစည်းအဝေးသို့ ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက်အရ (၂၇-၄-၂၀၀၀) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၁၅/၂၀၀၀)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးပြီး အမျိုးသားသစ် အချောထည် စက်မှုလီမိတက် (National Wood Industry Ltd.) အား သစ်အခြေခံ စက်မှုလုပ်ငန်း (သစ်အချောထည်များ ထုတ်လုပ်ဖြန့်ဖြူးခြင်း) ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ-၃၈၂/၂၀၀၀ ကို ထုတ်ပေးလိုက်သည်။

၂။ အမျိုးသား သစ်အချောထည် စက်မှု လီမိတက် (National Wood Industry Ltd.)အနေဖြင့် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလ အတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် လုပ်ငန်းအကောင်အထည် ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ)အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀)ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည်ဖော်နိုင်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့တင်ပြလျှောက်ထား ရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်

အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါလုပ်ငန်း အကောင်အထည်ဖော်ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီး၍ အမှန်တကယ်ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါလုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်နိုင်မှု အခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့်စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဈ)အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့် ပြုသည်။

(ဇ) ဥပဒေပုဒ်မ ၁၃(ည)အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို ပြည်ပသို့ တင်ပို့ရောင်းချမှုအပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဈ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) ပြည်ပမှ တင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှုမှ ဝင်ငွေ၊ ပြည်တွင်း၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစနစ် (Deferred Payment System)စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ အမျိုးသား သစ်အချောထည် စက်မှု လီမိတက် (National Wood Industry Ltd.)သည် လုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများနှင့် လုပ်ငန်းသုံးပစ္စည်းများကို ပြည်တွင်း/ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည်ပေးဆပ်သည့်အခါ အဆိုပြု လုပ်ငန်းမှရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှစက်ပ[illegible]ည်းများ၊ စက်အရန်ပစ္စည်းများနှင့် လုပ်ငန်းသုံးပစ္စည်းများကို ပြည်တွင်း/ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက်ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိဘဲ ချေးငွေပေးသူနှင့် ယူသူတို့၏ တာဝန်သာ ဖြစ်စေရမည်။

၆။ အမျိုးသား သစ်အချောထည် စက်မှုလီမိတက် (National Wood Industry Ltd.)သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပ တင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၇။ အမျိုးသား သစ်အချောထည် စက်မှု လီမိတက် (National Wood Industry Ltd.)သည် ကုန်ချော ပစ္စည်းများအား ပြည်ပသို့ တင်ပို့ရောင်းချရာတွင် သစ်တောရေးရာ ဝန်ကြီးဌာနမှ သတ်မှတ်ထားသည့် မူဝါဒ နှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၈။ အမျိုးသား သစ်အချောထည် စက်မှု လီမိတက် (National Wood Industry Ltd.)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၉။ အဆိုပြုလုပ်ငန်းကိုဆောင်ရွက်နိုင်ရန်အတွက် မြေအငှါးချထားသူ ဦးကျော်ဝင်းနှင့် အငှါးချထားခြင်းခံ ရသူ အမျိုးသား သစ်အချောထည် စက်မှု လီမိတက် (National Wood Industry Ltd.) တို့ ချုပ်ဆိုမည့် မြေငှါးရမ်းခြင်းသဘောတူစာချုပ်ကိုလက်မှတ်ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ်မိတ္တူ(၅)စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၁၀။ အမျိုးသား သစ်အချောထည် စက်မှု လီမိတက် (National Wood Industry Ltd.) ကို မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေနှင့်အညီ မှတ်ပုံတင်နိုင်ရန်အတွက် ကုမ္ပဏီများ ညွှန်ကြားမှု ဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့လျှောက်ထားရမည်။ ကုမ္ပဏီအားမှတ်ပုံတင်ပြီးသည့်အခါ အောက်ဖော် ပြပါ စာရွက်စာတမ်း (၅) စောင်စီကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

(က) ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် (Certificate of Incorporation)

(ခ) ကုမ္ပဏီများ ညွှန်ကြားမှု ဌာနက အတည်ပြုပြီးဖြစ်သည့် မြန်မာ-အင်္ဂလိပ် နှစ်ဘာသာဖြင့် ပြုစုထားသော ကုမ္ပဏီ သင်းဖွဲ့စည်းမျဉ်း နှင့် သင်းဖွဲ့မှတ်တမ်းများ (Memorandum and Articles of Association)

၁၁။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့်စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၁၂။ အမျိုးသား သစ်အချောထည် စက်မှု လီမိတက် (National Wood Industry Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြ လျှောက်ထားရမည်။

၁၃။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၄။ အမျိုးသား သစ်အချောထည် စက်မှု လီမိတက် (National Wood Industry Ltd.) သည်

ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံဂတိပြုထားသည့်အတိုင်း စံနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက် ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၅။ အမျိုးသား သစ်အချောထည် စက်မှု လီမိတက် (National Wood Industry Ltd.) သည် ပူးတွဲပါ ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ၃(သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၆။ အဆိုပြု လုပ်ငန်းစတင်ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၇။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်ခြင်း မပြု နိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

( ဦးသောင်း )
ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၁/မ-၄၉၂/၂၀၀၀ (၅ ၆ ၉ -၁၁)
ရက်စွဲ၊ ၂၀၀၀ ပြည့်နှစ်၊ မေလ ၁၅ ရက်။

ဖြန့်ဝေခြင်း–
၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။
၅။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၆။ အလုပ်သမား ဝန်ကြီးဌာန။
၇။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၈။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၉။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၀။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၁။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၂။ သစ်တောရေးရာ ဝန်ကြီးဌာန။
၁၃။ ဥက္ကဋ္ဌ၊ မန္တလေးမြို့ စည်ပင်သာယာရေး ကော်မတီ။
၁၄။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၅။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၁၇။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း။
၂၆။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၂၇။ ဒါရိုက်တာ၊ အမျိုးသား သစ်အချောထည် စက်မှု လီမိတက် (National Wood Industry Ltd.)။

၄။ <u>အမျိုးသားသစ်အခြောက်ထည်စက်မှုလီမိတက် ( National Wood Industry Ltd. ) တည်ထောင်၍သစ်အခြောက်ခံစက်မှုလုပ်ငန်း ( သစ်အခြောက်ထည်များ ထုတ်လုပ်ဖြန့်ဖြူးခြင်း) ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။</u> ၄/၂၀၀၀ ဆုံးဖြတ်ချက်

ဒုတိယဝန်ကြီး ရေးမှူးချုပ် ဒေါ်သိဝီတင်မှအဆိုပြုလုပ်ငန်း၏ ငွေကြေးဆိုင်ရာ၊ စီးပွားရေးဆိုင်ရာအချက်အလက်များအား ရှင်းလင်းပြီး လုပ်ငန်းဆောင်ရွက်ရန်အတွက်သစ်တောရေးရာဝန်ကြီးဌာနမှ ကန့်ကွက်ရန်မရှိကြောင်း၊ သဘောထားရရှိပြီး ဖြစ်ပြီး မန္တလေးတိုင်း အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီနှင့်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနတို့မှသဘောထားများ တောင်းခံထားသဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်အစည်းအဝေးမှအဆိုပြုလုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့်သဘောတူ၍ မန္တလေးတိုင်း အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၊ အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနတို့၏သဘောထားရရှိရေး အမြန်ဆောင်ရွက်ပြီး သဘောထားများနှင့်ယှဉ်တွဲ၍ ကော်မတီအစည်းအဝေးသို့ဆက်လက်တင်ပြသွားရန် ဆုံးဖြတ်ပါသည်။

<u>[illegible]</u>

| အမှတ်စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် သိသာရန် |
|---|---|---|
| ၁ | ၂ | ၃ |
| ၄ | <u>အမျိုးသားသစ်အချောထည်စက်မှုလီမိတက် ( National Wood Industry Ltd.) – ကည့်ကောင်း၌ သစ်အခြေခံစက်မှုလုပ်ငန်း (သစ်အချောထည်များ ထုတ်လုပ်ဖြန့်ဖြူးခြင်း) ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။</u><br><br><u>ဆုံးဖြတ်ချက်။</u><br>– အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့်သဘောတူ၍ မန္တလေးတိုင်း အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၏ သဘောထားရရှိရေး အမြန်ဆောင်ရွက်ရန်။<br>– သဘောထားရရှိပါက ကုန်သွယ်မှုမူဝါဒကောင်စီအစည်းအဝေးသို့ ဆက်လက်တင်ပြရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် မန်းအေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေး |

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/ မ- ၁၁၂၇/ ၂၀၀၀ (၁၈၇-က)။
ရက်စွဲ၊ ၂၀၀၀ ပြည့်နှစ်၊ ဧပြီလ ၁၉ ရက်။

## ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ အမျိုးသား သစ်အချောထည် စက်မှု လီမိတက် တည်ထောင်၍ သစ်အခြေခံ စက်မှု လုပ်ငန်း (သစ်အချောထည်များ ထုတ်လုပ် ဖြန့်ဖြူးခြင်း) ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော အမျိုးသား သစ်အချောထည် စက်မှု လီမိတက် (National Wood Indusry Ltd.) တည်ထောင်၍ သစ်အခြေခံစက်မှုလုပ်ငန်း (သစ်အချောထည်များ ထုတ်လုပ် ဖြန့်ဖြူးခြင်း)ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်း အဆိုပြုချက်ကို (၁၁-၂-၂၀၀၀)နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၄/၂၀၀၀)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး သဘောထား မှတ်ချက်များ စုံလင်ပါက ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရ (၃၁-၃-၂၀၀၀)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၅/၂၀၀၀) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ မူအားဖြင့် သဘောတူပြီး အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်း ဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရွှေ့ဆိုင်းငွေပေးချေခြင်း စနစ် သဘောတူစာချုပ် (မူကြမ်း)နှင့် မြေငှား သဘောတူစာချုပ် (မူကြမ်း)တို့ကို နောက်ဆက်တွဲ(၁) အဖြစ် ပေးပို့ထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၁,၂၀)သန်း အပါအဝင် စုစုပေါင်း ကျပ် (၅၂.၂၄)သန်း ဖြစ်ပါသည်။ စက်ပစ္စည်း ကိရိယာ များ နှင့် ငွေသားချေးငွေများကို စင်ကာပူနိုင်ငံ Chippel Overseas Supplies Pte Ltd. မှရွှေ့ဆိုင်းငွေပေးချေခြင်း စနစ်အရ ရယူမည်ဖြစ်ပြီး ဆိုင်းငံ့ကာလ (၁)နှစ် အပါအဝင် တစ်နှစ်လျှင် အတိုးနှုန်း (၅) ရာခိုင်နှုန်းဖြင့် (၅)နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည် ဖြစ်ပါသည်။

၃။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန် အတွက် ရမည်းသင်း ခရိုင် အထွေထွေ အုပ်ချုပ်ရေး ဦးစီးဌာနမှ ကမကထပြုသူ ဦးကျော်ဝင်း အမည်ဖြင့် စီးပွားဖြစ် လုပ်ကိုင်ရန် ချပေးထားသော မြေ၊ မြေကွက် အမှတ် (၂၂၂၂၊ ၂၂၂၃၊ ၂၂၂၄၊ ၂၂၂၅၊ ၂၂၂၆၊ ၂၂၂၇၊ ၂၂၂၈၊ ၂၂၂၉၊ ၂၂၃၀၊ ၂၂၃၁)၊ အကွက် အမှတ်-၃၂၊ ပေါင်းလောင်း (၂)၊ ငုဝါလမ်း နှင့် နှင်းဆီလမ်းကြား၊ ၂၆ လမ်း နှင့် ၂၇ လမ်းကြား၊ ရွာကောက်ရပ်ကွက်၊

ပျဉ်းမနားမြို့နယ်၊ မန္တလေးတိုင်းရှိ မြေ (၀.၉၉) ဧက (၄၀၀၆.၃၉ စတုရန်းမီတာ) ပေါ်တွင် လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။

၄။ ယင်းလုပ်ငန်းမှ ထုတ်လုပ်သော သစ်အချောထည် ပါကေး နှင့် ပရိဘောဂများကို ပြည်တွင်းတွင် (၃၀) ရာခိုင်နှုန်း နှင့် ပြည်ပသို့ (၇၀) ရာခိုင်နှုန်း တင်ပို့ရောင်းချ မည်ဖြစ်ပါသည်။ပုံမှန်နှစ်ရှိ ထုတ်လုပ်မှုမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (ကုဗမီတာ) |
|---|---|---|
| ၁။ | Teak | |
| | - Parquets | ၃၀၀ |
| | - Other Funiture | ၇၀၀ |
| ၂။ | Hard Wood | |
| | - Parquets | ၁၃၀၀ |
| | - Other Funiture | ၅၂၀၀ |

၅။ ယင်းလုပ်ငန်း၏ အရင်းကြေကာလမှာ (၄)နှစ်နှင့် (၂)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ (၂၈)ရာခိုင်နှုန်း ဖြစ်ပါသည်။

၆။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

(က) ဝင်ငွေခွန် ကျပ် ၄.၄၅ သန်း
အမေရိကန်ဒေါ်လာ ၀.၀၈ သန်း

(ခ) ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၆၅.၈၄ သန်း

၇။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၁၂၀)ဦး နှင့် ပြည်ပမှ ဝန်ထမ်း (၃)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၈။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် သစ်တောရေးရာ ဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်တောင်းခံရာ ကန့်ကွက်ရန် မရှိကြောင်း ပြန်ကြားလာပါသည်။ မန္တလေးတိုင်း အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေးကောင်စီသို့ သဘောထား မှတ်ချက် တောင်းခံရာ တည်နေရာ နှင့် ပတ်သက်၍ ကန့်ကွက်ရန် မရှိသော်လည်း ပိုင်ဆိုင်မှုကို စိစစ်ပြီးမှ ခွင့်ပြုသင့်ကြောင်း ပြန်ကြားလာပါသည်။ အဆိုပြုမြေမှာ အမျိုးသား သစ်အချောထည်စက်မှုလီမိတက်၏ဒါရိုက်တာဖြစ်သူ ဦးကျော်ဝင်းအမည်ပေါက်မြေဖြစ်ပြီး၊ ၎င်းမှ ကုမ္ပဏီသို့ ပြန်လည်ငှားရမ်းထားခြင်း ဖြစ်ကြောင်း မြေငှားစာချုပ် (မူကြမ်း) နှင့် အတူ တင်ပြ ခြင်းဖြစ်ပါသည်။

၉။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ ပိုင်ဆိုင်မှု၊ ပတ်ဝန်းကျင်ထိန်းသိမ်းမှု၊ ချေးငွေရယူမှုတို့နှင့် ပတ်သက်၍ ဝန်ခံကတိများ ပြုထားပါသည်။

၁၀။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း

စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ ပါသည်။

၁၁။ ဆုံးဖြတ်ရန်အချက်။

(က) အမျိုးသား သစ်အရောင်းစည် စက်မှု လီမိတက် တည်ထောင်၍ သစ်အခြေခံ စက်မှုလုပ်ငန်း (သစ်အချောထည်များ ထုတ်လုပ် ဖြန့်ဖြူးခြင်း) ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ–မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ–မတူ။

၁၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။

အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

(ဦးသောင်း)

ဥက္ကဋ္ဌ

ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့။

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/ မ- ၁၁၂၇/ ၉၉ (၁၂၃၄၆)။
ရက်စွဲ၊ ၂၀၀၀ ပြည့်နှစ်၊ မတ်လ ၂၁ ရက်။

## ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ အမျိုးသား သစ်အချောထည် စက်မှု လီမိတက် တည်ထောင်၍ သစ်အခြေခံ စက်မှု လုပ်ငန်း (သစ်အချောထည်များ ထုတ်လုပ် ဖြန့်ဖြူးခြင်း) ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော အမျိုးသား သစ်အချောထည် စက်မှု လီမိတက် (National Wood Indusry Ltd.) တည်ထောင်၍ သစ်အခြေခံစက်မှုလုပ်ငန်း (သစ်အချောထည်များ ထုတ်လုပ် ဖြန့်ဖြူးခြင်း)ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်း အဆိုပြုချက်ကို (၁၁-၂-၂၀၀၀)နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၄/၂၀၀၀)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး သဘောထား မှတ်ချက်များ စုံလင်ပါက ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်အရ သဘောထားများစုံလင်ပြီ ဖြစ်ပါ၍ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရှေးဆိုင်းငွေပေးချေခြင်း စနစ် သဘောတူစာချုပ် (မူကြမ်း)နှင့် မြေငှား သဘောတူစာချုပ် (မူကြမ်း)တို့ကို နောက်ဆက်တွဲ(၁) အဖြစ် တင်ပြထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၁.၂၀)သန်း အပါအဝင် စုစုပေါင်း ကျပ် (၅၂.၂၀)သန်း ဖြစ်ပါသည်။ ယင်းတွင်ငွေသား ကျပ် (၂၉.၄၀)သန်း {အမေရိကန်ဒေါ်လာ (၀.၄၀)သန်းအပါအဝင်}၊ အဆောက်အဦတန်ဖိုး ကျပ် (၁၈.၀၀)သန်း။ စက်ပစ္စည်းကိရိယာ တန်ဖိုး ကျပ် (၄.၈၀)သန်း {အမေရိကန်ဒေါ်လာ (၀.၈၀)သန်း} ထည့်ဝင် ရင်းနှီးမည် ဖြစ်ပါသည်။ စက်ပစ္စည်း ကိရိယာ များ နှင့် ငွေသားချေးငွေများကို စင်ကာပူနိုင်ငံ Chippel Overseas Supplies Pte Ltd. မှရှေးဆိုင်းငွေပေးချေခြင်း စနစ်အရ ရယူမည်ဖြစ်ပြီး ဆိုင်းငံ့ကာလ (၁)နှစ် အပါအဝင် တစ်နှစ်လျှင် အတိုးနှုန်း (၅) ရာခိုင်နှုန်းဖြင့် (၅)နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည် ဖြစ်ပါသည်။

၃။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန် အတွက် ရမည်းသင်း ခရိုင် အထွေထွေ အုပ်ချုပ်ရေး ဦးစီးဌာနမှ ကာမကထပြုသူ ဦးကျော်ဝင်း အမည်ဖြင့် စီးပွားဖြစ် လုပ်ကိုင်ရန် ချပေးထားသော မြေ၊ မြေကွက် အမှတ် (၂၂၂၂၊ ၂၂၂၃၊ ၂၂၂၄၊ ၂၂၂၅၊ ၂၂၂၆၊ ၂၂၂၇၊ ၂၂၂၈၊ ၂၂၂၉၊ ၂၂၃၀၊ ၂၂၃၁)၊ အကွက် အမှတ်-၃၂၊ ပေါင်းလောင်း (၂)၊ ဝုဝါလမ်း နှင့် နှင်းဆီလမ်းကြား။ ၂၆ လမ်း နှင့် ၂၇ လမ်းကြား။ ရွာကောက်ရပ်ကွက်၊

ပျဉ်းမနားမြို့နယ်၊ မန္တလေးတိုင်းရှိ မြေ (၀.၉၉) ဧက (၄၀၀၆.၃၉ စတုရန်းမီတာ) ပေါ်တွင် လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။

၄။ ယင်းလုပ်ငန်းမှ ထုတ်လုပ်သော သစ်အချောထည် ပါကေး နှင့် ပရိဘောဂများကို ပြည်တွင်းတွင် (၃၀) ရာခိုင်နှုန်း နှင့် ပြည်ပသို့ (၇၀) ရာခိုင်နှုန်း တင်ပို့ရောင်းချ မည်ဖြစ်ပါသည်။ပုံမှန်နှစ်ရှိ ထုတ်လုပ်မှု နှင့် ရောင်း ဈေးနှုန်း များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ပြည်တွင်းရောင်း | | ပြည်ပရောင်း | |
|---|---|---|---|---|---|
| | | ထုတ်လုပ်မှု (ကုဗမီတာ) | ရောင်းဈေးနှုန်း (Ks/Cum) | ထုတ်လုပ်မှု (ကုဗမီတာ) | ရောင်းဈေးနှုန်း (US$/Cum) |
| ၁။ | <u>Teak</u> | | | | |
| | - Parquets | ၉၀ | ၂၄၀၀၀၀ | ၂၁၀ | ၁၄၄၀ |
| | - Other Funiture | ၂၁၀ | ၃၆၀၀၀၀ | ၄၉၀ | ၂၄၀၀ |
| ၂။ | <u>Hard Wood</u> | | | | |
| | - Parquets | ၃၉၀ | ၆၂၀၀၀ | ၉၁၀ | ၂၂၀ |
| | - Other Funiture | ၁၅၆၀ | ၉၁၀၀၀ | ၃၆၄၀ | ၂၃၀ |

၅။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(ကျပ်သန်း)

| | | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၂၆၃.၃၄ | ၁၅.၁၀ | ၂၇၈.၄၄ |
| (ခ) | အသုံးစရိတ် | ၂၅၂.၉၆ | ၁၂.၄၁ | ၂၆၅.၃၇ |
| (ဂ) | အသားတင်အမြတ် | ၁၀.၃၈ | ၂.၆၉ | ၁၃.၀၇ |

၆။ ယင်းလုပ်ငန်း၏ အရင်းကြေကာလမှာ (၄)နှစ်နှင့် (၂)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၂၈)ရာခိုင်နှုန်း ဖြစ်ပါသည်။

၇။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) ဝင်ငွေခွန် — ကျပ် ၄.၄၅ သန်း
အမေရိကန်ဒေါ်လာ ၀.၀၈ သန်း

(ခ) ကုန်သွယ်လုပ်ငန်းခွန် — ကျပ် ၆၅.၈၄ သန်း

၈။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၁၂၀)ဦး နှင့် ပြည်ပမှ ဝန်ထမ်း (၃)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၉။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် သစ်တောရေးရာ ဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံရာ သတ်မှတ်ထားသည့် စည်းကမ်းချက်များအတိုင်း ဆောင်ရွက်သွားမည် ဆိုပါက ကန့်ကွက်ရန် မရှိကြောင်း နှင့် မန္တလေးတိုင်း အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေးကောင်စီသို့ သဘောထား မှတ်ချက်

တောင်းခံရာ တည်နေရာ နှင့် ပတ်သက်၍ ကန့်ကွက်ရန် မရှိသော်လည်း ပိုင်ဆိုင်မှုကို စိစစ်ပြီးမှ ခွင့်ပြုသင့်ကြောင်း ပြန်ကြားလာပါသည်။ အဆိုပြုမြေမှာ အမျိုးသား သစ်အချောထည် စက်မှု လီမိတက်၏ ဒါရိုက်တာ ဖြစ်သူ ဦးကျော်ဝင်း အမည်ပေါက်မြေဖြစ်ပြီး၊ ၄င်းမှ ကုမ္ပဏီသို့ ပြန်လည်ငှားရမ်းထားခြင်း ဖြစ်ကြောင်း မြေငှားစာချုပ် (မူကြမ်း) နှင့် အတူ တင်ပြ ခြင်းဖြစ်ပါသည်။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး၊ နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု နှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန် လိုအပ်သော အစီအမံများ၊ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ ချေးငွေရယူခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိဘဲ ချေးငွေပေးသူနှင့် ယူသူတို့၏ တာဝန်သာဖြစ်ကြောင်း၊ ပြန်လည်ပေးဆပ်ရာတွင်လည်း နိုင်ငံခြားသို့ တင်ပို့ရောင်းချ၍ ရရှိသော နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်မည် ဖြစ်ကြောင်းနှင့် လုပ်ငန်းအသစ်၊ ရင်းနှီးမြှုပ်နှံမှုအသစ်ဖြစ်ကြောင်း ဝန်ခံကတိ ပြုထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ ပါသည်။

၁၂။ ဆုံးဖြတ်ရန်အချက်။

(က) အမျိုးသား သစ်အချောထည် စက်မှု လီမိတက် တည်ထောင်၍ သစ်အခြေခံ စက်မှုလုပ်ငန်း (သစ်အချောထည်များ ထုတ်လုပ် ဖြန့်ဖြူးခြင်း) ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ–မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ–မတူ။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။

ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

( ဦးသောင်း )

ဥက္ကဋ္ဌ

ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

ကုန်သွယ်မှု မူဝါဒ ကောင်စီ။

၄||၂၀၀၀ MIC ၁၁ : ၂ . ၂၀၀၀





## လုပ်ငန်း စီမံကိန်း အဆိုပြုချက်၏အဓိကအချက်များ
## (မြန်မာနိုင်ငံသား များ ရင်း နှီး မြှုပ်နှံမှုဥပဒေအရ)

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | အမျိုးသားသစ်အချောထည်စက်မှုလီမိတက် (National Wood Industry Ltd.) |
| ၂။ | လုပ်ငန်း အဆိုပြုသူအမည် | ဦး ကျော်ဝင်း |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုး အစား | သစ်အခြေခံစက်မှုလုပ်ငန်း (သစ်အချောထည်များ ထုတ်လုပ်ဖြန့်ဖြူး ခြင်း ) |
| ၄။ | တည်နေရာ | ဦးပိုင်အမှတ် (၂၂၂၂၊ ၂၂၂၃၊ ၂၂၂၄၊ ၂၂၂၅၊ ၂၂၂၆၊ ၂၂၂၇၊ ၂၂၂၈၊ ၂၂၂၉၊ ၂၂၃၀၊ ၂၂၃၁)၊ အကွက်အမှတ်နှင့်အမည်-၃၂/ ပေါင်း လောင်း (၂)၊ ငုဝါလမ်းနှင့်နှင်းဆီလမ်း ကြား၊ ၂၆လမ်းနှင့် ၂၇လမ်းကြား ၊ရွာတောက် ရပ်ကွက်၊ ပျဉ်းမနား မြို့နယ်၊ မန္တလေး တိုင်း ။ |
| ၅။ | စုစုပေါင်း ရင်း နှီးမြှုပ်နှံမှု | ကျပ် ၅၂.၂၀ သန်း (US$ ၁.၂၀ သန်းအပါအဝင်) |
| | - ငွေပမာဏ | ကျပ် ၂၈.၄၀ သန်း (US$ ၀.၄၀ သန်းအပါအဝင်) |
| | - အဆောက်အဦ | ကျပ် ၁၈.၀၀ သန်း |
| | - စက်ပစ္စည်းကိရိယာ | ကျပ် ၄.၈၀ သန်း (US$ ၀.၈၀ သန်း) |
| ၆။ | မြေအကြောင်း အရာ | |
| | - မြေအကျယ်အဝန်း | ၀.၉၉၄ ဧက (၄၀၀၆.၃၉ စတုရန်းမီတာ) |
| | - မြေပိုင်ဆိုင်မှု | ကမကထပြုသူဦး ကျော်ဝင်းအမည်ဖြင့်ရမည်းသင်း ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနမှ စီးပွါး ဖြစ်လုပ်ကိုင်ရန်ချပေးထား သော မြေ ( မြေကို ငှားရမ်းအသုံးပြုမည်ဖြစ်ပါသည်။ ) |
| | - မြေအမျိုး အစား | စီးပွါးဖြစ်လုပ်ကိုင်ရန်ချပေး ထား သော မြေ ။ |

| | | ပြည်တွင်း (ကုဗမီတာ) | ပြည်ပ (ကုဗမီတာ) |
|---|---|---|---|
| ၇။ | ထုတ်လုပ်မှု ( ပုံမှန်နှစ် ) | | |
| | Teak | | |
| | - Parquets | ၉၀ | ၂၀၀ |
| | - Other Furniture | ၂၀၀ | ၄၉၀ |

| | | |
|---|---|---|
| Hard Wood | | |
| - Parquets | ၃၉၀ | ၉၁၀ |
| - Other Furniture | ၁၅၆၀ | ၃၆၄၀ |
| ၈။ ရောင်းချမည့်နည်းစနစ် | | |
| - ပြည်တွင်း | ၃၀ % | |
| - ပြည်ပ | ၇၀ % | |
| ၉။ ရောင်းဈေးနှုန်း ( ပုံမှန်နှစ် ) | ပြည်တွင်း (Ks/Cum) | ပြည်ပ (US$/Cum) |
| - Parquets | ၂၄၀၀၀၀ | ၁၄၄၀ |
| - Other Furniture | ၃၆၀၀၀၀ | ၂၄၀၀ |
| Hard Wood | | |
| - Parquets | ၆၂၀၀၀ | ၂၂၀ |
| - Other Furniture | ၉၀၀၀၀ | ၂၃၀ |
| ၁၀။ ဝင်ငွေ ( ပုံမှန်နှစ် ) | | |
| - နိုင်ငံခြား ငွေဖြင့် | US$ ၂.၅၂ သန်း | |
| - ကျပ် ငွေဖြင့် | ကျပ် ၂၆၃.၃၄ သန်း | |
| ၁၁။ အသားတင်အမြတ် ( ပုံမှန်နှစ် ) | | |
| - နိုင်ငံခြား ငွေဖြင့် | US$ ၀.၄၅ သန်း | |
| - ကျပ် ငွေဖြင့် | ကျပ် ၁၀.၃၈ သန်း | |
| ၁၂။ အရင်း ကြေကာလ | (၄) နှစ်နှင့် (၂) လ | |
| ၁၃။ အရင်းအနှီးအပေါ် အကျိုး အမြတ် ပြန်ပေါ်နှုန်း ( IRR ) | (၂၈) ရာခိုင်နှုန်း | |
| ၁၄။ နိုင်ငံတော်မှ ပုံမှန်နှစ်တွင်ရရှိ မည့်အကျိုး အမြတ် | | |
| - ဝင်ငွေခွန် | | |
| - နိုင်ငံခြား ငွေဖြင့် | US$ ၀.၀၈ သန်း | |
| - ကျပ် ငွေဖြင့် | ကျပ် ၄.၄၅ သန်း | |

| | | |
|---|---|---|
| | - ကုန်သွယ်လုပ်ငန်း ခွန် (၂၅%)<br>- ကျပ် ငွေဖြင့် | ကျပ် ၆၅.၀၄ သန်း |
| ၁၅။ | ဝန်ထမ်း အင်အား<br>- ပြည်တွင်း<br>- ပြည်ပ | ၁၂၃ ဦး<br>၁၂၀ ဦး<br>၃ ဦး |
| ၁၆။ | တည်ဆောက်မှုကာလ | (၁) နှစ် |
| ၁၇။ | အခြား | - စက်ပစ္စည်းကိရိယာများနှင့် ငွေသား ချေး ငွေကို စင်ကာပူနိုင်ငံ Chippel Overseas Supplies Pte Ltd. - မှ ရွှေဆိုင်း ငွေ ပေး ချေခြင်း စနစ်အရ တစ်နှစ်လျှင်အတိုးနှုန်း ၅ ရာခိုင်နှုန်းဖြင့်ဆိုင်းငံ့ကာလတစ်နှစ်အပါအဝင်(၅) နှစ် အတွင်း ပြန်လည် ပေးဆပ်ရမည်ဖြစ်ပါသည်။<br>- စက်ပစ္စည်း စာရင်း ကိုပူးတွဲတင်ပြထား ပါသည်။<br>- ယင်း လုပ်ငန်း သည်မြန်မာနိုင်ငံသား များသာ ပိုင်ဆိုင်ပြီး၊ နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိ ကြောင်း၊ မြေယာနှင့်ပတ်သက်၍ နိုင်ငံ တော်မှ သတ်မှတ်ပြဋ္ဌာန်း မည့်စည်း ကမ်း သတ်မှတ်ချက် များကိုလိုက်နာမည်ဖြစ် ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှုနှင့် မီး ဘေးအန္တရာယ်များမဖြစ်ပွါး စေရန်လိုအပ် သောအစီအမံ များ ၊ ကြိုတင်ကာ ကွယ်မှုများ ပြုလုပ်ထား မည်ဖြစ် ကြောင်း၊ ထွက်ရှိ သောသစ်အ ချောထည်များကို နိုင်ငံခြား သို့အမှန် တကယ်တင်ပို့ ရောင်းချမည်ဖြစ် ကြောင်း၊ နိုင်ငံခြား ချေး ငွေရယူခြင်း သည် နိုင်ငံ တော်နှင့်သက်ဆိုင် ခြင်း မရှိဘဲ ငွေ ချေးသူ၊ ယူသူတို့၏တာဝန်သာဖြစ် ကြောင်း ၊ ချေး ငွေပြန်လည် ပေး ဆပ်ရာတွင် |

နိုင်ငံခြား သို့သစ်အချောထည်များ တင်ပို့ရရှိ
သောနိုင်ငံခြား ငွေဖြင့် ပေး ဆပ်မည်ဖြစ်
ကြောင်း ၊ လုပ်ငန်း အသစ်ရင်း နှီး မြှုပ်နှံမှု
အသစ်ဖြစ်ကြောင်း ၊ ဝန်ခံကတိပြုထား ပါသည်။

- ယင်း လုပ်ငန်း ဆောင်ရွက်ရန်အတွက် ငွေ ရေး
ကြေး ရေး ဆိုင်ရာအထောက်အထား အဖြစ်ကမ
ကထပြုသူ ဦး ကျော်ဝင်း ၏ သမဝါယမဘဏ် ရှိ
( ၂၅-၁၀-၉၉ ) နေ့ဘဏ်လက်ကျန်စာရင်းမှာ
ကျပ် ၁၅.၀၃သန်း ဖြစ်ကြောင်းနှင့်ဒါရိုက်တာ
ဦး ဝင်း နိုင်ထွန်း ၏ ရိုးမဘဏ်ရှိ (၂၅-၁၀-၉၉)
နေ့ဘဏ်လက်ကျန်စာရင်းမှာကျပ်၁၀.၁၆သန်း
ဖြစ်ကြောင်းကိုတင်ပြထား ပါသည်။

- ယင်း လုပ်ငန်း ဆောင်ရွက်ရန်အတွက်သစ်တော
ရေး ရာဝန်ကြီး ဌာန၊ အထွေထွေအုပ်ချုပ် ရေး
ဦးစီးဌာန နှင့်မန္တလေး တိုင်း အေးချမ်းသာယာ
ရေးနှင့်ဖွံ့ဖြိုး ရေး ကောင်စီရုံးသို့သဘောထား
မှတ်ချက် တောင်းခံရာသတ်မှတ်ထားသည့်စည်း
ကမ်း ချက်များ အတိုင်း ဆောင်ရွက်သွားမည်ဆိုပါ
ကကန့်ကွက်ရန် မရှိပါကြောင်းအကြောင်း ပြန်
ကြားလာပါသည်။

- မန္တလေး တိုင်း အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုး
ရေး ကောင်စီနှင့်အထွေထွေအုပ်ချုပ်ရေးဦးစီး
ဌာနသို့သဘောထား မှတ်ချက် တောင်း ခံထား
ဆဲဖြစ်ပါသည်။

- ဥပဒေပုဒ်မ ၁၂နှင့်၁၃အရအခွန်ကင်းလွတ်
ခွင့်နှင့်သက်သာခွင့်များ ကိုခံစားခွင့်ပြုရန်
လျှောက်ထား လာပါသည်။

NATIONAL WOOD INDUSTRY LIMITED

LIST OF MACHINERIES AND EQUIPMENTS TO BE IMPORTED

Sheet No. ( 1 )
Exhibit No. I

| Sr No | PARTICULARS | UNIT | QTY | PRICE IN US$ | VALUE IN US$ |
|---|---|---|---|---|---|
| A | TIMBER PROCESSING MACHINERIES & EQUIPMENT | | | | |
| 1 | Standard 6ft type x 6 spindles Double End Tenoner | Set | 1 | 25000 | 25000 |
| 2 | Automatic Moulder | Set | 1 | 50000 | 50000 |
| 3 | 18" Pneumatic Cut Off Saw C/W 7.5 H.P Motor(exclude sawblade ) | Set | 2 | 5000 | 10000 |
| B | MACHINERY FOR DOOR & MOULDING PLANT LINE | | | | |
| 1 | Double End Tenoner | Set | 1 | 25000 | 25000 |
| 2 | Screw Compressor Hydrovane Pump Motor | Set | 1 | 3000 | 3000 |
| 3 | Profile Knife Grinder | Set | 1 | 7000 | 7000 |
| 4 | 12" Planer Spindle | Set | 1 | 2000 | 2000 |
| 5 | Hydraulic Press for Door ( Vertical Type ) | Set | 1 | 3500 | 3500 |
| 6 | Planner/Moulder | Set | 1 | 25000 | 25000 |
| 7 | 2-Sided Planer | Set | 1 | 9000 | 9000 |
| 8 | Tatry Radial Arm Saw | Set | 1 | 1100 | 1100 |
| 9 | Radial Arm Saw | Set | 1 | 1200 | 1200 |
| 10 | Single RIPSAW | Set | 1 | 900 | 900 |
| 11 | Top Working Wide Belt Sander | Set | 1 | 11000 | 11000 |
| 12 | Spindle Moulder | Set | 1 | 1400 | 1400 |
| 13 | 400mm Thicknesser | Set | 1 | 2500 | 2500 |
| 14 | Bandsaw | Set | 1 | 3000 | 3000 |
| 15 | 18" Pneumatic Cut Off Saw | Set | 1 | 2800 | 2800 |
| 16 | 7.5' Pneumatic Five Head Boring Machine | Set | 1 | 11000 | 11000 |
| 17 | Tenoning Machine | Set | 1 | 5000 | 5000 |
| 18 | 4' x 8' Hydraulic Frame Press | Set | 1 | 5200 | 5200 |
| C | PARQUET & FINGER JOINT PROCESSING | | | | |
| 1 | Finger Shaper | Units | 3 | 18000 | 54000 |
| 2 | Finger Joint Assember | Set | 2 | 5000 | 10000 |
| 3 | Finger Joint Lumber Composer | Set | 2 | 17000 | 34000 |
| 4 | Clamp Carrier | Set | 2 | 6000 | 12000 |
| 5 | Double End Tenoner | Set | 2 | 4500 | 9000 |
| 6 | 4 Side 6 Spindle Moulder | Set | 2 | 15000 | 30000 |
| 7 | 2 Side Auto Moulder | Set | 2 | 1100 | 2200 |
| 8 | Radial Arm Saw | Set | 2 | 1250 | 2500 |
| 9 | Spindle Shaft Shaper | Set | 2 | 1350 | 2700 |
| 10 | Narrow Blade Bandsaw | Set | 2 | 2000 | 4000 |
| 11 | Spindle Moulder | Set | 2 | 1500 | 3000 |
| 12 | Packing Machine | Set | 2 | 1000 | 2000 |
| D | SANDING AREA | | | | |
| 1 | Wide Belt Sander | Set | 1 | 15000 | 15000 |
| 2 | Edge Belt Sander | Set | 2 | 2500 | 5000 |
| 3 | Profil Sander | Set | 2 | 4000 | 8000 |
| | SUB-TOTAL OF SHEET NO. ( 1 ) | | | | 398000 |

NATIONAL WOOD INDUSTRY LIMITED

Sheet No. ( 2 )

LIST OF MACHINERIES AND EQUIPMENTS TO BE IMPORTED

Exhibit No. I

| Sr No | PARTICULARS | UNIT | QTY | | VALUE IN US$ |
|---|---|---|---|---|---|
| E | EXHAUST SYSTEM | | | | |
| 1 | Movable Bag Dust Collector | Set | 5 | 500 | 2500 |
| 2 | Ventilator Piping Cyclon | Set | 2 | 4500 | 9000 |
| 3 | Dust Quantity Collector | Set | 2 | 1000 | 2000 |
| 4 | Plate Fan | Units | 5 | 540 | 2700 |
| 5 | Aircompressor | Set | 2 | 1200 | 2400 |
| 6 | Incinerator | Set | 1 | 15000 | 15000 |
| F | TIMBER DRYER SYSTEM | | | | |
| 1 | Heat Exchanger and Circulating Fan | Set | 10 | 400 | 4000 |
| 2 | Kin-Dryer | Set | 3 | 20000 | 60000 |
| G | TOOLS SHARPENING | | | | |
| 1 | Strait Knife Grinder | Set | 1 | 8000 | 8000 |
| 2 | Sawblade Grinder | Set | 1 | 4000 | 4000 |
| H | OTHER MACHINERY & EQUIPMENT | | | | |
| 1 | Band Saw with carriage 60" | Set | 1 | 52000 | 52000 |
| 2 | Band Re-Saw 48" | Set | 1 | 20000 | 20000 |
| 3 | Band Re-Saw 36" | Set | 1 | 16000 | 16000 |
| 4 | Band Re-Saw 24" | Set | 2 | 11000 | 22000 |
| 5 | One Complete Set Saw Shop Equipment | Lot | 1 | 17500 | 17500 |
| 6 | Spare Parts for Band Saw & Re-Saw | Lot | 1 | 26000 | 26000 |
| 7 | Lumber Drying Chamber ( Steam Heating Type ) | Set | 1 | 42000 | 42000 |
| 8 | Hydraulic Copier Lathe Machine | Set | 1 | 36000 | 36000 |
| 9 | Forklift | Units | 3 | 2600 | 7800 |
| 10 | Generator 150KVA/300KVA | Set | 2 | 20000 | 40000 |
| 11 | Airconditioner ( 1.5 H.P/ 2 H.P ) | Units | 8 | 550 | 4400 |
| 12 | Computer & Printer | Set | 3 | 2000 | 6000 |
| 13 | Copying Machine | Set | 1 | 2700 | 2700 |
| | SUB-TOTAL OF SHEET NO. ( 2 ) | | | | 402000 |
| | SUB-TOTAL OF SHEET NO. ( 1 ) | | | | 398000 |
| | GRAND TOTAL | | | | 800000 |

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များရရှိရေးအတွက် လျှောက်ထားချက်အပေါ် အောက်ပါအတိုင်းသုံးသပ်တင်ပြပါသည်။

- ဥပဒေပုဒ်မ ၁၃ (က) အရ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေပမာဏအပေါ်မူတည်၍ ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ ကနဦးရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် ကော်မရှင်သို့လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ခ) အရ လုပ်ငန်းမှပြည်ပသို့တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့်အမြတ်ငွေအပေါ် (၅၀ %) ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ လုပ်ငန်း၏အမှန်တကယ်အကောင်အထည်ဖော်ဆောင်ရွက်နိုင်မှုအခြေအနေကို ဖော်ပြလျက် ပထမဂင်ငွေခွန်ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် ကော်မရှင်သို့လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဂ) အရ ကုန်ထုတ်လုပ်မှုကြောင့် ပြည်တွင်း၊ ပြည်ပဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့်ကို လုပ်ငန်းအကောင်အထည်ဖော်မှုအရ လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဃ) အရ သွင်းကုန်အစားထိုးလုပ်ငန်း အဖြစ် အကျိုးအမြတ်နည်းသည့်လုပ်ငန်းအပေါ် သင့်လျော်သောကာလအထိ ဝင်ငွေခွန်သက်သာခွင့်တောင်းခံခြင်းကို အကျုံးဝင်ခြင်းမရှိဟု သုံးသပ်ရပါသည်။

- ဥပဒေပုဒ်မ ၁၃ (စ) အရ လုပ်ငန်းမှ ရရှိသည့်အမြတ်ငွေကိုတစ်နှစ်အတွင်း ပြန်လည်ရင်းနှီးမြှုပ်နှံပါကထိုအမြတ်ငွေပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်ကို အမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လျှောက်ထားလာပါက ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုကိုနှင့်မူလတန်ဖိုးပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့်ပတ်သက်၍ လျှောက်ထားလာသည့်အခါ ကော်မရှင်မှ သတ်မှတ်သည့်နှုန်းအတိုင်း ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဇ) အရ ကနဦးရင်းနှီးမြှုပ်နှံမှုကာလအတွင်း တင်သွင်းလာသည့်စက်ပစ္စည်းများအပေါ် အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များကင်းလွတ်ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဈ) အရ ကနဦးရင်းနှီးမြှုပ်နှံမှုကာလကုန်ဆုံး၍ ပထမ (၃) နှစ်အတွက် တင်သွင်းသည့်လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့်အခြား ပြည်တွင်းအခွန်အကောက်များကင်းလွတ်ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ည) အရ ထုတ်လုပ်သည့်ပစ္စည်းများ ပြည်ပသို့တင်ပို့ရောင်းချမှုအပေါ် ကုန်သွယ်လုပ်ငန်းခွန်ကင်းလွတ်ခွင့်ကို ခွင့်ပြုသင့်ပါသည်။



* အေး * ၂၆-၁၁-၉၉

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ပြည်ထဲရေးဝန်ကြီးဌာန
( အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန )

စာအမှတ်၊ ၂၀၀/ ၁-၁၃ / ဦး ၁
ရက်စွဲ၊ ၂၀၀၀ပြည့်နှစ်၊ မတ် လ ၁၄ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်း

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉-၁၁-၉၉ ရက်စွဲပါစာအမှတ်၊ ရက-၁/မ-၄၉၂/၉၉ (၆၄၁၀-ယ)

(၂) ဤဦးစီးဌာန၏ ၉-၂-၂၀၀၀ ရက်စွဲပါစာအမှတ်၊ ၂၀၀/၁-၁၃/ဦး ၁

၁။ မန္တလေးတိုင်း ၊ ပျဉ်းမနား မြို့နယ်၊ ရွာ ကောက်ရဝိကွက်၊ အကွက်အမှတ် ၃၂၊ ဦးပိုင်အမှတ် ၂၂၂၂မှ ၂၂၂၉ မြေကွက် ပေါ်ရှိအမျိုးသားသစ်အရောင်ညှိစက်မှုလီမိတက်မှသစ်အခြေခံထုတ်ကုန်လုပ်ငန်း ဆောင်ရွက်မည့်မြေနေရာနှင့်စပ်လျဉ်း၍ မန္တလေးတိုင်း အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေး ကောင်စီ၏သဘောထားကို အောက်ပါအတိုင်း ရရှိလာပါသည်-

(က) ယခုအသုံးပြုမည့်နေရာမှာပျဉ်းမနားမြို့၏တိုးချဲ့မြို့ကွက်သစ် နေရာတွင်လူနေထိုင်ရန်အတွက်ခွင့်ပြုထားသောမြေကွက်များပေါ် တွင် ဆောင်ရွက်မည်ဖြစ်သဖြင့်လူနေနည်းပါးသောနေရာဖြစ်၍ လုပ်ငန်း ဆောင်ရွက်ခြင်းကိုကန့်ကွက်ရန်မရှိကြောင်း ၊

(ခ) မြေကွက်များကိုဝယ်ယူသူမှာဦး ကျော်ဝင်းဖြစ်ပြီး အမျိုးသား သစ်အရောင်ညှိစက်မှုလီမိတက်မှ ဆောင်ရွက်မည်ဖြစ်သဖြင့် ပိုင် ဆိုင်မှုရှင်းလင်းမှသာခွင့်ပြုသင့်ကြောင်း ။

၂။ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ပေးပို့ထားသည့်အဆိုပြုလွှာအမှုတွဲများတွင်ဦး ကျော်စင်းမှာအမျိုးသားသစ်အချောထည်စက်မှုလီမိတက်၏ ဒါရိုက်တာတစ်ဦးဖြစ်ပြီး ဦး ကျော်စင်းနှင့်အမျိုးသားသစ်အချောထည်စက်မှုလီမိတက်တို့ မြေငှါး ၊ သဘောတူညီမှုစာချုပ်မူကြမ်းများအရ မြေငှါးရမ်း ဆောင်ရွက်မည်ဖြစ်ကြောင်း တွေ့ရှိရပါသည်။

၃။ မြေအသုံးပြုမှုနှင့်ပတ်သက်၍ဦးစီးဌာနအနေဖြင့်ကန့်ကွက်ရန် မရှိကြောင်းနှင့်လုပ်ငန်းဆောင်ရွက်မှုမရှိသေးကြောင်း ပြန်ကြားအပ်ပါသည်။

---

၁၄.၃.၂၀၀၀

ညွှန်ကြားရေးမှူးချုပ် ( ကိုယ်စား )
( တင်ဝှိုင် ၊ ညွှန်ကြားရေးမှူး )

မိတ္တူကို -

(၁) ပြည်ထဲရေးဝန်ကြီးဌာန၊ ဝန်ကြီးရုံး ၊
(၂) လက်ခံ၊
(၃) မျှော။

၂၉|၂|၂၀၀၀

တိုင်းအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ
မန္တလေး တိုင်း ၊ မန္တလေး တိုင်း
စာအမှတ် ၊ ၅ / ၄၃ - ၂၆၀ / ဦး ၆
ရက်စွဲ ၊၂၀၀၀ပြည့်နှစ်၊ ဖေဖော်ဝါရီလ ၂၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
( ၆၅၃ / ၆၉၁ ) ၊ကုန်သည်လမ်း
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံထားခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၉ - ၁၁ - ၉၉ )ရက်စွဲပါ စာအမှတ် ၊ ရက - ၁ /မ-၄၉၂ /၉၉ ( ၆၄၁၀-င )

၁။ အမျိုးသားသစ်အချောထည်စက်မှု လီမိတက်သည် မန္တလေးတိုင်း ၊ပျဉ်းမနားမြို့နယ် ၊ရွာကောက်ရပ်ကွက် ၊ (၂၆ × ၂၇ )ကြား ၊( ၄ဝါလမ်းနှင့်နှင်းဆီလမ်း )ကြား ၊အကွက်အမှတ် နှင့်အမည် (၃၂/ပေါင်းလောင်း)( ၂ ) ဦးပိုင်အမှတ် (၂၂၂၂ ၊၂၂၂၃ ၊၂၂၃၀ ၊၂၂၃၁ )နှင့် ဦးပိုင်အမှတ် (၂၂၂၄ ၊၂၂၂၅ ၊၂၂၂၆ ၊၂၂၂၇ ၊၂၂၂၈၊၂၂၂၉) တို့တွင် သစ်အခြေခံထုတ်ကုန်များ ထုတ်လုပ်ရန်အတွက် လျှောက်ထားခြင်းနှင့်ပါတ်သက်၍ ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက် တောင်းခံထားပါသည်။

၂။ အဆိုပါမြေနေရာအား ရမည်းသင်း ခရိုင်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီမှ ကွင်းဆင်းစစ်ဆေးရေးအဖွဲ့ ဖွဲ့စည်းပြီး စစ်ဆေးခဲ့ရာ လက်ရှိ အခြေအနေတွင် ဝင်းခြံကာရံထား၍ လုပ်ငန်းစတင်နိုင်ရန်အတွက် လိုအပ်သောပစ္စည်းများ အသင့်စုဆောင်းထားရှိသည်ကို တွေ့ရှိရပြီး ၊လက်ရှိလုပ်ငန်းလုပ်ကိုင်ခြင်း မရှိသေးကြောင်း စစ်ဆေးတွေ့ရှိရပါသည်။

၃။ အဆိုပါကိစ္စနှင့် ပါတ်သက်၍ ပူးတွဲပါရှိသောစာရွက်စာတမ်းများကို စီစစ်ရာတွင် လုပ်ငန်းဆောင်ရွက်လိုသည့် မြေကွက်များကို ဂရန်လျှောက်ထားရယူထားသူမှာ ဦးကျော်ဝင်းဖြစ်ပြီး ၊မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လျှောက်ထားသူမှာ အမျိုးသားသစ်အချောထည်စက်မှုလီမိတက် ဖြစ်ကြောင်းတွေ့ရှိရပါသည်။ ဦးကျော်ဝင်းသည် ယင်းလီမိတက်၏ မည်သည့်တာဝန်ဟု မတွေ့ရှိရပါ။

၄။ သို့ဖြစ်ပါ၍ ယခုကိစ္စတွင် နေရာနှင့် ပါတ်သက်ပြီး ကန့်ကွက်ရန်မရှိသော်လည်း မြေဂရန်ရထားသော ဦးကျော်ဝင်း နှင့် လျှောက်ထားသည့် အမျိုးသားသစ်အချောထည် စက်မှုလီမိတက်တို့ ဆက်စပ်မှုမှာ ပေါ်လွင်မှုမရှိသောကြောင့် ပိုင်ဆိုင်လုပ်ကိုင်မှု ရှင်းလင်းရေးကို စီစစ်ပြီးမှသာ ခွင့်ပြုသင့်ပါကြောင်း ( ၂၀ - ၂ - ၂၀၀၀ ) ရက်နေ့တွင် ပြုလုပ်သော မန္တလေးတိုင်းအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ အစည်းအဝေး အမှတ်စဉ် ( ၉ / ၂၀၀၀ ) ဆုံးဖြတ်ချက်အရ ပြန်ကြားအပ်ပါသည်။

ဥက္ကဋ္ဌ ( ကိုယ်စား )

ဦးကျော်ဝင်း

နှင့်

အမျိုးသားသစ်အချောထည်စက်မှုလီမိတက်

တို့၏

# မြေငှားသဘောတူညီမှုစာချုပ်

( မူကြမ်း )

# မြေငှားသဘောတူစာချုပ်(မူကြမ်း)

✡✡✡✡✡✡✡✡✡✡✡✡✡✡✡✡✡✡✡✡✡✡✡✡✡✡✡✡✡✡

ဤမြေငှားသဘောတူစာချုပ်ကို ၁၉၉၉ခုနှစ်၊ လ၊ ရက်နေ့တွင် အမှတ်(၂၃)၊ ခေမာသီ(၁)လမ်း၊ မိကျောင်းကန်အပိုင်း(၃)၊ သဃ်န်းကျွန်းမြို့နယ်၊ ရန်ကုန်မြို့တွင် နေထိုင်သော မြန်မာနိုင်ငံသားတစ်ဦးဖြစ်သည့် **ဦးကျော်ဝင်း** ( နိုင်ငံသားမှတ်ပုံတင်အမှတ်- ၁၂/တမန(နိုင်)၀၀၉၆၁၁ ) (နောင်တွင် "အငှားချထားသူ"ဟု ခေါ်တွင်စေရမည်၊ ယင်းစကားရပ်တွင် ၎င်း၏ဆက်ခံသူများနှင့် ဥပဒေအရ ခွင့်ပြုထားသည့် လွှဲအပ်ခြင်းခံရသူများပါဝင်သည်) က တစ်ဖက်နှင့်

အမှတ်(၁၁၃)၊ ဝေဇယန္တာလမ်း၊(၁၆/၂)ရပ်ကွက်၊ သဃ်န်းကျွန်းမြို့နယ်၊ ရန်ကုန်မြို့တွင် မှတ်ပုံတင်ရုံးတည်ရှိသော မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းထားသည့် **အမျိုးသားသစ်အချောထည်စက်မှုလီမိတက်** ( နောင်တွင် "အငှားချထားခြင်းခံရသူ" ဟု ခေါ်တွင်စေရမည်၊ ယင်း စကားရပ်တွင် ၎င်း၏ဆက်ခံသူများနှင့်ဥပဒေအရ ခွင့်ပြုထားသည့် လွှဲအပ်ခြင်းခံရသူများ ပါဝင်သည် ) ကို ကိုယ်စားပြုသူအဖြစ် ဒါရိုက်တာ ဦးသန်းဝင်း (နိုင်ငံသားမှတ်ပုံတင်အမှတ် - ၁၂/သဃက (နိုင်) ၀၂၀၆၃၆ ) မှ အခြားတစ်ဖက်တို့သည် အောက်ပါအတိုင်း မြေငှားသဘောတူစာချုပ်ကို ချုပ်ဆိုကြသည်။

## ၁။ ရည်ရွယ်ချက်

ဤမြေငှားစာချုပ်တွင် "အငှားချထားခြင်းခံရသူ" သည် ပြည်ထောင်စုမြန်မာနိုင်ငံတော် အတွင်း သစ်အခြေခံထုတ်ကုန်များ၊ ( ကြမ်းခင်းတုံး၊ တံခါး၊ ပြူးတင်းပေါက်၊ ပရိဘောဂပစ္စည်း စသည်များ ) ထုတ်လုပ်ခြင်းလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်နိုင်ရန်ဆန္ဒဖြင့် မင်္ဂလာလေးတိုင်း၊ ပျဉ်းမနားမြို့နယ်၊ ရွာကောက်ရပ်ကွက်၊ ၂၆လမ်းနှင့် ၂၇လမ်းကြား၊ ၄၀၊လမ်းနှင့်နှင်းဆီလမ်းကြား၊ အကွက်အမှတ်နှင့်အမည်-၃၂/ပေါင်းလောင်း(၂)၊ ဦးပိုင်အမှတ် (၂၂၂၂၊ ၂၂၂၃၊ ၂၂၃၀၊ ၂၂၃၁) တို့တွင်တည်ရှိသော အငှားချထားသူပိုင် (၀ .၃၉၆) ဧက နှင့် ဦးပိုင်အမှတ် ( ၂၂၂၄၊ ၂၂၂၅၊ ၂၂၂၆၊ ၂၂၂၇၊ ၂၂၂၈၊ ၂၂၂၉)ရှိ (၀.၅၉၄)ဧက အကျယ်အဝန်းရှိသောမြေနေရာတို့ကို ငှားရမ်းခြင်း ဖြစ်သည်။ အဆိုပါ မြေနေရာပြမြေပုံနှင့် ပိုင်ဆိုင်မှုအထောက် အထားများကို နောက်ဆက်တွဲ(က) နှင့်(ခ)တွင် ပူးတွဲတင်ပြထားပါသည်။

ဤမြေသည် "အငှားချထားသူ" မှလက်ဝယ်ရှိပြီး၊ တရားဝင်ပိုင်ဆိုင်မှုရှိကြောင်း တာဝန် ယူအာမခံပါသည်။ သို့ဖြစ်၍ မြေငှားရမ်းခြင်းနှင့်ပတ်သက်၍ အောက်ပါသဘောတူညီမှုများကို နှစ်ဦးနှစ်ဖက် ပြုလုပ်ကြပါသည်။

## ၂။ ငှားရမ်းခ

၂-၁ "အငှားချထားသူ"သည့်အငှားချထားမည့်မြေနေရာကို လွှဲပြောင်းငှားရမ်းပေးရန်နှင့် "အငှားချထားခြင်းခံရသူ" သည်၎င်းမြေနေရာကို ဤမြေငှားသဘောတူစာချုပ်နှင့်အတူ ပူးတွဲဖော်ပြထားသောမြေ(နောင်တွင် "အငှားချထားမည့်မြေနေရာ"ဟုခေါ်တွင်စေရမည်)ကို သုံးစွဲနိုင်သောအခွင့်အရေးနှင့်အတူ ဤသဘောတူစာချုပ်၏အပိုဒ်(၆)တွင် ဖော်ပြပါရှိသည့်နေ့ မှ စတင်ပြီး ကနဦး(၃၀)နှစ်နှင့် (၅)နှစ်(၂)ကြိမ်စီဖြင့် သက်တမ်းတိုးမြှင့်သည့်ကာလ အထိ မြေဧရိယာ (၀ .၃၉၆)ဧက သို့မဟုတ် (၁၆၀၂.၅၅၆၅) စတုရန်းမီတာခန့် ရှိသော မြေကွက်နှင့် မြေဧရိယာ (၀.၅၉၄) ဧက သို့မဟုတ် ( ၂၄၀၃.၈၃၄၉ ) စတုရန်းမီတာခန့်ရှိသော မြေကွက်တို့ကို လက်ခံငှားရမ်းအသုံးပြုရမည်။

၂-၂ ဤမြေငှားသဘောတူစာချုပ် ချုပ်ဆိုသည့်နေ့မှစ၍ အဆောက်အဦးတည်ဆောက် နေသဲ ကာလ(၁၂)လအတွက် ငှားရမ်းခသတ်မှတ်ခြင်းမပြုရပါ။စက်ရုံအဆောက်အဦး ဆောက်လုပ်ပြီးနောက် လုပ်ငန်းစတင်ဆောင်ရွက်သည့်နေ့မှစ၍ တစ်လလျှင် ကျပ် ၅၀၀၀၀/- (ကျပ်ငါးသောင်းတိတိ ) နှုန်းဖြင့်ငှားရမ်းခအဖြစ် သတ်မှတ်ပေးချေရပါမည်။

၂-၃ နှစ်စဉ်ငှားရမ်းခ ကိုပေးချေရာတွင် တစ်နှစ်စာရင်းပိတ်သည်အထိ စောင့်ဆိုင်းခြင်း မပြုဘဲ တစ်လလျှင် ကျပ် ၅၀၀၀၀/- (ကျပ် ငါးသောင်းတိတိ ) နှုန်းဖြင့် ပြက္ခဒိန်နှစ်အလိုက် သုံးလလျှင်တစ်ကြိမ် ပထမလ၏(၁၀)ရက်အတွင်း ကြိုတင်၍ ပေးဆောင်ရမည်ဖြစ်သည်။

## ၃။ အငှားချထားခြင်းခံရသူ၏တာဝန်များ

၃-၁ အငှားချထားခြင်းခံရသူ၏ ဆောင်ရွက်ပေးရန်တာဝန်များမှာ အောက်ပါအတိုင်းဖြစ်သည်။

(က) ငှားရမ်းသည့်ကာလများ အတွက်ငှားရမ်းခများကို သတ်မှတ်သဘောတူထားသော နေ့ရက်တွင်ပေးရမည့်အပြင် သက်ဆိုင်ရာအာဏာပိုင်များသို့ ပေးဆောင်ရမည့်ဝန်ဆောင်မှုနှင့်စပ်လျဉ်းသောအခကြေးငွေများကိုလည်း အချိန်မှန်မှန်ပေးဆောင်ရမည်။

(ခ) အငှားချထားသောမြေနေရာကို ထပ်ဆင့်ငှားရမ်းခြင်း၊ လွှဲပြောင်းခြင်း၊ ခွဲစိတ်ရောင်းချခြင်းစသည့်တို့ကို လုံးဝဆောင်ရွက်ခြင်းမပြုလုပ်ရ။

(ဂ) ငှားရမ်းသည့်ကာလများအတွင်း အငှားချထားသောမြေနေရာကိုကောင်းမွန်စွာ ထိမ်းသိမ်းရမည်ဖြစ်ပြီး၊ ငှားရမ်းသည့်ကာလကုန်ဆုံးသောအခါတွင်ဖြစ်စေ၊ သို့မဟုတ် ထပ်မံတိုးချဲ့ငှားရမ်းခြင်း မပြုလုပ်သောအခါတွင်ဖြစ်စေ ၄င်းမြေနေရာကို အငှားချထားသူထံသို့ ပြန်လည်လွှဲပြောင်းပေးရမည်။

(ဃ) အငှားချထားသောမြေနေရာတွင် လုပ်ငန်းများဆောင်ရွက် အကောင်အထည်ဖော်ရာ၌ ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ တရားဝင်တည်ဆဲဥပဒေများနှင့် အညီကိုက်ညီမှုရှိအောင်ဆောင်ရွက်ရမည်။

(င) စည်ပင်သာယာခွန်အပါအဝင်ဖြစ်သော အခြားအလားတူလုပ်ငန်းသဘောအရ ပေးဆောင်ရန်ရှိသော အခွန်အကောက်များကိုပေးဆောင်ရမည်။

(စ) အငှားချထားသောမြေပေါ်ရှိ အဆောက်အအုံများနှင့် လုပ်ငန်းအတွက် လိုအပ်သော အာမခံများကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် မြန်မာ့အာမခံဥပဒေများနှင့် အညီထားရှိရမည်။

(ဆ) အငှားချထားခြင်းခံရသူသည် မိမိလုပ်ငန်းမှစွန့်ပစ်ပစ္စည်းကြောင့် ပတ်ဝန်းကျင်ရှိ မြေနေရာ၊ ရေနှင့်လေထုညစ်ညမ်းမှုများမှ ကာကွယ်ရေးအတွက် တာဝန်ယူပါသည်။

## ၄။ အငှားချထားသူ၏တာဝန်များ

၄-၁ အငှားချထားသူ၏ ဆောင်ရွက်ပေးရန်တာဝန်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) အငှားချထားခြင်းခံရသူအနေဖြင့် ငှားရမ်းခများကိုပေးဆောင်နေသည့်ငှားရမ်းကာလအတွင်း အငှားချထားသောမြေနှင့် အကျုံးဝင်သည့်အရာများကို ငြိမ်းချမ်းစွာ၊ အေးဆေးစွာနှင့် အနှောက်အယှက်ကင်းစွာတို့ဖြင့် အသုံးပြုဆောင်ရွက်ပိုင်ခွင့်ရှိစေရမည်ဖြစ်ပြီး၊ ငှားရမ်းသည့်ကာလအတွင်း အငှားချထားသူ၏သဘောဆန္ဒအရ သို့မဟုတ် တစ်ဦးဦး၏ဝင်ရောက်တောင်းဆိုမှုအရ သို့မဟုတ် အငှားချထားသူ၏ ယုံကြည်အပ်နှံသူတို့မှ ပါဝင်ပတ်သက်မှုများဖြင့် ဝင်ရောက်နှောက်ယှက်ခြင်း မရှိစေရ။

(ခ) အငှားချထားသူသည် အငှားချထားသောမြေနှင့်ပတ်သက်သည့် ပေးဆောင်ရန်ရှိသော မြေခွန်ကိုပေးဆောင်ရမည်။

## ၅။ ငှားရမ်းခတိုးမြှင့်ခြင်း

၅-၁ အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့သည် အငှားချထားသောမြေနေရာ နှင့် အဆောက်အဦးများအတွက် စာချုပ်စတင်အတည်ဖြစ်သည့်နေ့မှစ၍ (၅)နှစ်လျှင်တစ်ကြိမ် ငှားရမ်းခနှုန်းထားများကို ပြီးခဲ့သော(၅)နှစ်တာကာလ၏ ငှားရမ်းခနှုန်းများထက် ( ၁၅ ) ရာခိုင်နှုန်းထက်မပိုစေဘဲ တိုးမြှင့်ခြင်းကိုပြုလုပ်ရန်အတွက် ပြန်လည်ညှိနှိုင်းပြင်ဆင်သုံးသပ်ပိုင်ခွင့်ရှိစေရမည်။

## ၆။ ငှားရမ်းခြင်း၏သက်တမ်း

၆-၁ ဤမြေငှားသဘောတူစာချုပ်အရ ငှားရမ်းခြင်း၏သက်တမ်းမှာ စာချုပ် စတင်အကျိုးသက်ရောက်သည့်နေ့ မှစ၍ ကနဦးအနေဖြင့် (၃၀) နှစ် ဖြစ်ပြီး၊ ထိုသက်တမ်းကုန်ဆုံးပါက တကြိမ်လျှင်(၅)နှစ်စီဖြင့် (၂)ကြိမ်အထိ တိုးမြှင့် ငှားရမ်းနိုင်ရေးအတွက် အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့၏ နှစ်ဦးနှစ်ဘက် ညှိနှိုင်းမှုအရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူခွင့်ပြုချက်နှင့်အညီ ဆက်လက် ငှားရမ်းမည်ဖြစ်သည်။

၆-၂ စုစုပေါင်းသက်တမ်း(၃၀)နှစ် ကုန်ဆုံး ပြီးပါက နှစ်ဦးနှစ်ဘက်ညှိနှိုင်းသဘောတူညီမှုအရ ဆက်လက်တိုးမြှင့်ငှားရမ်းမည်ဖြစ်သည်။ ထို့သို့တိုးမြှင့်ငှားရမ်းခြင်း နှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိပြီးမှသာလျှင် အတည်ဖြစ်စေရမည်။ ငှားရမ်းခြင်းသက်တမ်းကို ငှားရမ်းခြင်းစတင်သည့်နေ့မှ စတင်ရေတွက်မည်ဖြစ်သည်။ ငှားရမ်းခြင်းစတင်သည့်နေ့မှာ ဤသဘောတူစာချုပ်လက်မှတ်ရေးထိုးသောနေ့ ဖြစ်သည်။

## ၇။ မလွဲမရှောင်နိုင်သည့်ဖြစ်ရပ်များ

၇-၁ မလွန်ဆန်နိုင်သည့် သဘာဝဘေးအန္တရာယ်များဖြစ်သည့် ရေကြီးခြင်း၊ မီးလောင်ခြင်း၊ လေမုန်တိုင်းကျရောက်ခြင်း၊ စစ်မက်ဖြစ်ပွားခြင်း၊ မြေငလျင်တုန်လှုပ်ခြင်းနှင့် အလားတူ ထိန်းချုပ်၍မရနိုင်သည့်ဖြစ်ရပ်များ သို့မဟုတ် မည်သည့်ဖက်ကမျှ ကြိုးစားအားထုတ်ဆောင်ရွက်မှုဖြင့် တားဆီးမရနိုင်သောဖြစ်ရပ်များကြောင့် တစ်ဖက်ဖက်မှ စာချုပ်ပါတာဝန်များကိုထမ်းဆောင်ရန်ပျက်ကွက်ပါက အဆိုပါမလွဲမရှောင်နိုင်သည့်ဖြစ်ရပ်များ ပေါ်ပေါက်ကြောင်းကို ဖြစ်ပေါ်သည့်အချိန်မှ (၁၄)ရက်အတွင်း အခြားတစ်ဖက်သို့ စာဖြင့်အကြောင်းကြားရမည်။ အခြားတစ်ဖက်ကလည်း မလွန်ဆန်နိုင်သည့်ဖြစ်ရပ် ပေါ်ပေါက်ကြောင်းလက်ခံပါက စာချုပ်ချုပ်ဆိုသူနှစ်ဦးနှစ်ဖက်စလုံးတွင် မည်သည့်တာဝန်မျှမရှိစေရ။ မလွန်ဆန်နိုင်သည့်ဖြစ်ရပ်များပေါ်ပေါက်သည့်ကာလကို စာချုပ်သက်တမ်းကာလမှ ထုတ်နှုတ်ရန်သဘောတူကြပါသည်။

## ၈။ သဘောတူစာချုပ်စတင်အကျိုးသက်ရောက်သောနေ့

၈-၁ ဤသဘောတူစာချုပ်သည် အငှားချထားသူနှင့်အငှားချထားခြင်းခံရသူတို့ နှစ်ဦးနှစ်ဘက်မြေငှားသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးသဘောတူညီသည့်နေ့မှ စတင်၍အကျိုးသက်ရောက်မှုရှိစေရမည်ဖြစ်သည်။

## ၉။ စာချုပ်ရပ်စဲခြင်း

၉-၁ ဤသဘောတူစာချုပ်ကို အောက်ပါအခြေအနေတစ်ရပ်ရပ် ပေါ်ပေါက်လာပါက ရပ်စဲခြင်းပြုလုပ်နိုင်သည်။

(က) လုပ်ငန်းတွင် ကြီးမားစွာဆက်တိုက်အရှုံးပေါ်ပေါက်နေခြင်း၊

(ခ) မြေငှားသဘောတူစာချုပ်ဝင် တစ်ဖက်ဖက်မှ စာချုပ်ပါ တာဝန်များဆောင်ရွက်ရန်ပျက်ကွက်ခြင်း၊

(ဂ) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းမပြုလုပ်နိုင်သော မလွဲမရှောင်နိုင်သည့်ဖြစ်ရပ်များ (၆)လထက်ပိုမို ဖြစ်ပေါ်လာခြင်း၊

(ဃ) သဘောတူစာချုပ်၏မူလရည်မှန်းချက်များကို အကောင်အထည်ဖော်နိုင်စွမ်းမရှိခြင်း၊

၉-၂ သို့သော်ငြားလည်း အငှားချထားခြင်းခံရသူသည် ၎င်း၏လုပ်ငန်းများ ဆက်လက်ဆောင်ရွက်နိုင်ရန်နှင့် ပြန်လည်တည်ထောင်မှုပြုလုပ်နိုင်ရန်အတွက် ဤသဘောတူစာချုပ်ပါ ၎င်း၏အခွင့်အရေးများကို ခြွင်းချက်အဖြစ် သက်သာခွင့်ရရှိစေနိုင်သည်။ ဤသဘောတူစာချုပ်တွင်ပါရှိသော ပြဋ္ဌာန်းသတ်မှတ်ချက်များနှင့်အညီ နှစ်ဦးနှစ်ဖက်တို့သည် ဤသဘောတူစာချုပ်ကိုရပ်စဲလိုပါက ရပ်စဲလိုကြောင်းအကြောင်းကြားစာကို အခြားတစ်ဖက်ထံသို့ (၃)လကြိုတင်၍ပေးပို့အသိပေးရမည်။

၉-၃ ဤကဲ့သို့ မြေငှားသဘောတူစာချုပ်ရပ်စဲရာတွင် မြန်မာနိုင်ငံရင်းနှီးမြှပ်နှံမှု ကော်မရှင်၏သဘောတူအတည်ပြုချက် ရရှိပြီးမှသာလျှင် စာချုပ်ရပ်စဲနိုင်ခွင့်ရှိသည်။

## ၁၀။ အနုညာတစီရင်ဆုံးဖြတ်ခြင်း

၁၀-၁ အကယ်၍ ဤမြေငှားသဘောတူစာချုပ်ပါ အချက်အလက်များနှင့်ပတ်သက်ပြီး၊ အကောင်အထည်ဖော်ဆောင်ရွက်ရာတွင်ဖြစ်စေ၊ အဓိပ္ပါယ်လွဲမှားမှုကြောင့်ဖြစ်စေ၊ အငြင်းပွားမှုများဖြစ်ပေါ်လာပါက သဘောတူစာချုပ်တွင်လက်မှတ်ရေးထိုးထားသည့် နှစ်ဦးနှစ်ဖက်စလုံးမှ ညှိနှိုင်းဆွေးနွေးခြင်းဖြင့်အငြင်းပွားမှုများကို ပြေလည်ငြိမ်းအေးစေနိုင်သည်။ နှစ်ဦးနှစ်ဖက်အကျေအလည်ညှိနှိုင်းဆွေးနွေး၍ မရရှိခဲ့ပါက မြန်မာနိုင်ငံအတွင်း၌ နှစ်ဦးနှစ်ဖက်အတွက် ခုံသမာဓိလူကြီးတစ်ဦးစီ ရွေးချယ်ခန့်ထားပြီး ညှိနှိုင်းဆွေးနွေးနိုင်ခွင့်ရှိသည်။ နှစ်ဦးနှစ်ဖက်မှ ခန့်အပ်ထားသော ခုံသမာဓိလူကြီးများမှ အငြင်းပွားမှုများကို ပြေလည်အောင် ဖြေရှင်းပေးနိုင်ခြင်းမရှိခဲ့ပါက အဆိုပါခုံသမာဓိလူကြီးများသဘောတူသော ခုံသမာဓိလူကြီး၏ အဆုံးအဖြတ်ကို နှစ်ဖက်စလုံးမှလက်ခံကြရမည်။ ၎င်းခုံသမာဓိလူကြီး၏အဆုံးအဖြတ်မှာ အနုညာတစီရင်ဆုံးဖြတ်ခြင်းအက်ဥပဒေ( ၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံအက်ဥပဒေအမှတ် ၄ ) အရ ဖြစ်ရပါမည်။ ခုံသမာဓိအဖွဲ့၏ ဖြေရှင်းဆုံးဖြတ်ရန်နေရာမှာ ရန်ကုန်မြို့၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင်သာဖြစ်ရပါမည်။ ခုံသမာဓိရုံး၏ကုန်ကျစရိတ်များကို အမှုရှုံးသည့်ဖက်မှ ကျခံပေးဆောင်ရမည်။

## ၁၁။ လွှမ်းမိုးသောဥပဒေ

၁၁-၁ ဤသဘောတူစာချုပ်ကို မြန်မာနိုင်ငံဥပဒေများနှင့်အညီ အကောင်အထည်ဖော်ဆောင်ရွက်ရမည်။ ဤစာချုပ်ကိုလွှမ်းမိုးသောဥပဒေသည် မြန်မာနိုင်ငံ၏တည်ဆဲဥပဒေများဖြစ်သည်။ ဤစာချုပ်ပါနှစ်ဦးနှစ်ဖက်စလုံးသည် စီရင်ပိုင်ခွင့်ရှိသော သက်ဆိုင်ရာတရားရုံးများနှင့် အယူခံမှုများကို ကြားနာနိုင်သောတရားရုံးအားလုံး၏ စီရင်ပိုင်ခွင့်ကိုလက်ခံကြပါသည်။

## ၁၂။ ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ

၁၂-၁ ဤသဘောတူစာချုပ်တွင်ပါဝင်သော လုပ်ငန်းဆောင်ရွက်ချက်များကို အကောင်အထည်ဖော်ဆောင်ရွက်မှုများအတွက် သက်ဆိုင်ရာအစိုးရဌာနအဖွဲ့အစည်းများ၏ ခွင့်ပြုသဘောတူညီချက်ရရှိပြီးမှသာလျှင် ဆောင်ရွက်နိုင်ခွင့်ရှိကြမည်ဖြစ်သည်။

## ၁၃။ စာချုပ်အားဖြင့်ပြန်လည်ပြင်ဆင်စေ့စပ်ညှိနှိုင်းခြင်း

၁၃-၁ ဤသဘောတူစာချုပ်၌ ကြိုတင်မမျှော်မှန်းနိုင်သော အခြေအနေတစ်ခုခုပေါ်ပေါက်လာသဖြင့် စာချုပ်ပါအချက်အလက်များကို ဆက်လက်ဆောင်ရွက်ရန်မဖြစ်နိုင်သောအခါတွင် နှစ်ဦးနှစ်ဖက်မှစေ့စပ်ညှိနှိုင်းပြီး စာချုပ်ပါအချက်များကို လိုအပ်သလိုပြင်ဆင်ခွင့် ရှိစေရမည်ဖြစ်သည်။ ဤကဲ့သို့ပြင်ဆင်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူညီအတည်ပြုချက် ရရှိပြီးမှသာလျှင် အတည်ဖြစ်မည်ဖြစ်သည်။

## ၁၄။ ကိုယ်စားပြုခြင်းနှင့် အာမခံချက်

၁၄-၁ ဤမြေငှားသဘောတူစာချုပ်ကို ပါဝင်ချုပ်ဆိုကြသူနှစ်ဦးနှစ်ဖက်တို့သည် ဤသဘောတူစာချုပ်ကိုချုပ်ဆိုနိုင်ရန်အတွက် သက်ဆိုင်သောဥပဒေများနှင့်အညီ တရားဝင်ဖွဲ့စည်းတည်ထောင်ထားကြပြီးလျှင် ဥပဒေအရလုပ်ပိုင်ခွင့် အခွင့်အာဏာနှင့် စီးပွားရေးအရ ခိုင်မာတောင့်တင်းမှုရှိသောသူများဖြစ်ကြောင်းအာမခံသည်။

## ၁၅။ ဘာသာစကား

၁၅-၁ ဤမြေငှားသဘောတူစာချုပ်ကို ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ မြန်မာဘာသာဖြင့် စာချုပ်သုံးစောင်ရေးသားပြီးလျှင် စာချုပ်နှစ်စုံကို နှစ်ဦးနှစ်ဖက်မှ တစ်စုံစီရယူထားပြီး၊ ကျန်သောစာချုပ်တစ်စုံကို သက်ဆိုင်ရာ အာဏာပိုင်အဖွဲ့အစည်းထံသို့ပေးပို့၍ စစ်ဆေးခြင်းနှင့်အတည်ပြုချက်များ ရယူနိုင်ရန် ပေးပို့ရမည်။

## ၁၆။ အကြောင်းကြားစာ

၁၆-၁ ဤသဘောတူစာချုပ်နှင့်ပတ်သက်၍ အကြောင်းကြားစာနှင့် အခြားဆက်သွယ်မှုများအား အောက်ဖော်ပြပါလိပ်စာများအတိုင်း မြန်မာဘာသာဖြင့်ရေးသားပြီးလျှင် စာတိုက်မှမှတ်ပုံတင်ချောစာဖြင့်ဖြစ်စေ သို့မဟုတ် တဲလက်စ်ဖြင့်ဖြစ်စေ၊ ဖက်စ်ဖြင့်ဖြစ်စေ နှစ်ဦးနှစ်ဖက်ဆက်သွယ်ပေးပို့ရမည်။ ထိုသို့ဆက်သွယ်ပေးပို့ရာတွင် သဘောတူစာချုပ်ချုပ်ဆိုစဉ်က လိပ်စာအတိုင်းသော်လည်းကောင်း၊ တစ်ဖက်မှအကြောင်းကြားလာသည့် အခြားလိပ်စာဖြင့်သော်လည်းကောင်းဆက်သွယ်ပေးပို့ရမည်။

လိပ်စာများမှာ-

| | | |
|---|---|---|
| (က)"အငှားချထားသူ" | (၁)အမည် | -ဦးကျော်ဝင်း |
| | (၂)လိပ်စာ | -အမှတ်(၂၃)၊ ခေမာသီ(၁)လမ်း၊ မိကျောင်းကန်အပိုင်း(၃)၊ သဃ်န်းကျွန်းမြို့နယ်၊ ရန်ကုန်မြို့။ |
| | (၃)ဖုံးအမှတ် | - |
| | (၄)ဖက်စ်နံပါတ် | - |
| | (၅)တဲလက်နံပါတ် | - |
| (ခ)"အငှားချထားခြင်းခံရသူ" | (၁)အမည် | -အမျိုးသားသစ်အချောထည်စက်မှုလီမိတက် |
| | (၂)လိပ်စာ | -အမှတ်(၁၁၃)၊ဂေဇယျဿဂ္ဂာလမ်း၊(၁၆/၂)ရပ်ကွက်၊ သဃ်န်းကျွန်းမြို့နယ်၊ ရန်ကုန်မြို့။ |
| | (၃)ဖုံးအမှတ် | - |
| | (၄)ဖက်စ်နံပါတ် | - |
| | (၅)တဲလက်နံပါတ် | - |

၁၆-၂ ယခုကဲ့သို့စာရွက်စာတမ်းများ ပေးပို့ဆက်သွယ်သည့်အခါတွင် ပေးပို့ခြင်းကို လက်ခံရယူသည့်ဖက်မှ လက်ခံရရှိပြီးဖြစ်ကြောင်း အကြောင်းပြန်ကြားစာရရှိပြီးမှသာလျှင် ပေးပို့ခြင်းကိစ္စပြီးမြောက်ပြီးဖြစ်သည်ဟုအတည်ပြုနိုင်သည်။ အကယ်၍တစ်ဖက်ဖက်မှလိပ်စာအပြောင်းအလဲရှိပါက စာဖြင့်ရေးသားပြီး အကြောင်းကြားစာကိုပေးပို့ရမည်။

## ၁၇။ အငှားချထားသောမြေပုံ

၁၇-၁ ဤသဘောတူစာချုပ်အရ အငှားချထားမည့် မန္တလေးတိုင်း၊ ပျဉ်းမနားမြို့နယ်၊ ရွာကောက်ရပ်ကွက်၊ ၂၆ လမ်းနှင့် ၂၇ လမ်းကြား၊ ၄၀လမ်းနှင့်နှင်းဆီလမ်းကြား၊ အကွက်အမှတ်နှင့်အမည်-၃၂/ပေါင်းလောင်း(၂)၊ ဦးပိုင်အမှတ် (၂၂၂၂၊ ၂၂၂၃၊ ၂၂၃၀၊ ၂၂၃၁) တို့တွင်တည်ရှိသော အငှားချထားသူပိုင် (၀.၃၉၆) ဧက နှင့် ဦးပိုင်အမှတ် ( ၂၂၂၄၊ ၂၂၂၅၊ ၂၂၂၆၊ ၂၂၂၇၊ ၂၂၂၈၊ ၂၂၂၉)ရှိ (၀.၅၉၄)ဧက အကျယ်အဝန်းရှိသော မြေနေရာပြပုံကိုနောက်ဆက်တွဲ(က)နှင့်(ခ)တွင် ပူးတွဲဖော်ပြထားပါသည်။

## ၁၈။ တွင်းထွက်ပစ္စည်းများနှင့်သယံဇာတပစ္စည်းများ

၁၈-၁ ဤမြေငှားသဘောတူစာချုပ်အရ ငှားရမ်းမှုပြုလုပ်ထားသောမြေနေရာတွင် မည်သည့်အချိန်တွင်မဆို ထွက်ပေါ်ရရှိလာသော ဓါတ်သတ္တုများ၊ သဘာဝတွင်းထွက်သယံဇာတပစ္စည်းများ၊ ကျောက်မျက်ရတနာများ၊ ကြေးနီ၊ ရေနံနှင့် အခြားသောတူးဖော်ရရှိလာမည့် သဘာဝအရင်း အမြစ်များအားလုံးသည် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရနှင့်သာ သက်ဆိုင်စေရမည်ဖြစ်ပြီး အငှားချထားသူ အနေဖြင့်သက်ဆိုင်ရာအစိုးရဌာနသို့ အကြောင်းကြားတင်ပြပေးရမည်ဖြစ်သည်။

## ၁၉။ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း

၁၉-၁ **"အငှားချထားခြင်းခံရသူ"** သည် ဆောက်လုပ်ထားသော အဆောက်အအုံများနှင့် ၎င်းတို့၏ပတ်ဝန်း ကျင်တစ်ဝိုက်တွင် ဘေးအန္တရာယ်ကျရောက်မှုနှင့် ညစ်ညမ်းမှုများတို့မှ ကာကွယ်ရန်အတွက်လိုအပ်သော ကြိုတင်ပြင်ဆင်မှုများကို **"အငှားချထားခြင်းခံရသူ"** မှ ဆောင်ရွက်ပေးရမည်။ ၎င်းတို့၏အစိတ်အပိုင်း အပေါ်တွင် ဆောင်ရွက်မည့် လုပ်ဆောင်မှုများနှင့် လုပ်ငန်းဆောင်ရွက်မှုကြောင့် ပေါ်ပေါက်လာမည့် မည်သည့်လျော်ကြေး တောင်းဆိုမှုမျိုးကိုမဆို **"အငှားချထားသူ"** အပေါ်တွင်တာဝန် မရှိစေရ။ **"အငှားချထားခြင်းခံရသူ"** ကသာကျခံပေးချေရမည်။

၂၀။ အထွေထွေ

၂၀-၁ ဤမြေငှားသဘောတူစာချုပ်တွင် ဖော်ပြပါရှိသော အချက်အလက်များသည် သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်းတွင် ပြဋ္ဌာန်းထားသောအချက်အလက်များနှင့် အဓိပ္ပါယ်ကွဲလွဲခြင်း၊ ရှေ့နောက်မညီမညွတ်ဖြစ်နေခြင်းများ ဖြစ်ပေါ်လာပါက မြေငှားသဘောတူစာချုပ်တွင် ပြဋ္ဌာန်းထားသောအချက်အလက်များကိုသာ အတည်ဖြစ်သည်ဟုမှတ်ယူစေရမည်ဖြစ်သည်။

ဤသဘောတူစာချုပ်ကို အထက်ဖော်ပြပါ ------- ခုနှစ်၊ ----------လ နှင့် ------- နေ့ရက်တွင် နှစ်ဦးနှစ်ဖက်မှ တရားဝင်ကိုယ်စားလှယ်များမှ တံဆိပ်ရိုက်နှိပ်ပြီး၊ လက်မှတ်ရေးထိုးသဘောတူညီကြပါသည်။

**အငှားချထားသူ**
ဦးကျော်ဝင်း

**အငှားချထားခြင်းခံရသူ**
အမျိုးသားသစ်အချောထည်စက်မှုလီမိတက်
ကိုယ်စားလက်မှတ်ရေးထိုးသူ

လက်မှတ် :-----------
အမည် :-----------
လိပ်စာ :-----------

လက်မှတ် :-----------
အမည် :-----------
လိပ်စာ :-----------

**အသိသက်သေ**

လက်မှတ် :-----------
အမည် :-----------
လိပ်စာ :-----------

**အသိသက်သေ**

လက်မှတ် :-----------
အမည် :-----------
လိပ်စာ :-----------

SPECIAL ADHESIVE LABEL

FIVE KYATS

LAND REVENUE 11

Lease I

*Entered in land Register 3 (Volume ) Page*

*Revenue Proceedings No.* 102 *of* 1999 - 2000 *District Office*

*FORM OF LEASE OF TOWN LANDS WITH POWER OF RENEWAL UP TO NINETY YEARS*

*(Rule 51 A of the Rules under the U.B. Land and Revenue Regulation 1889)*

*(Rule 29 of the Rules under the L.B. Town and Village Lands act, 1808)*

**THIS LEASE** made the 11th day of August one thousand nine hundred and ninety nine **BETWEEN THE GOVERNMENT OF THE UNION OF BURMA** ( hereinafter called " the Lessor " which expression shall be taken to mean and include the said Government of the Union of Burma and his successors in office and assigns except when the context requires another and different meaning ) of the one part: **AND** — U Kyaw Win , Paung Laung Qtr. Pyinmana of Son of U Aung Myo hereinafter called " the Lessee " which expression shall be taken to mean and Include the said U Kyaw Win his heirs, executors administrators representatives and assigns except when the context requires another and different meaning) of the other part: **WITNESSETH** that in consideration of the rent hereinafter reserved and of the covenants by the Lessee hereinafter contained the Lessor **DOTH** hereby lease unto the Lessee all that piece of land described in the schedule hereto together with all rights easements and appurtenances to the same belonging save and except all mines and mineral products buried treasure coal petroleum oil and quarries whatsoever in under or within the said land with liberty for the Lessor and his lessees licensees agents and workmen and all other persons acting on his behalf to dig search for obtain and carry away the same on making reasonable compensation to the Lessee on account of any disturbance or damage that may be caused thereby to the surface of the said land and that such compensation shall in case of dispute be determined by the Deputy Commissioner of Yamethin as nearly as may be in accordance with the provisions of the Land Acquisition Acts or Regulations for the time being in force **TO HOLD** the said land unto the Lessee for the term of thirty years from the date of this lease * with the option for the Lessee to renew this lease for two successive terms of thirty years ! as hereinafter provided* **YIELDING** and **PAYING** therefor the clear yearly rent of Kyat 1920/- Ks payable in advance on the third day of January of each year and the Lessee doth hereby to the intent that the burden of the covenants may run with the said land and may bind the owners thereof for the time being covenant with the Lessor :

1. To pay the said rent on the days and in the manner hereinbefore appointed for payment thereof and also to pay all texes rates and assessments that now are or may hereafter during the said term be imposed upon the said land or any buildings that may be erected thereon of upon the Lessee in respect thereof.

* * The word " with the option . hereinafter provided " should be emitted the second renewal.

! ! The words * a further term of thirty years " should be substituted at the first renewal.

13. **PROVIDED** also and it is hereby agreed that the Lessor his successors or assigns may at the expiration of the said term hereby granted if the Lessee shall not have obtained a renewal of this lease under claue 12 hereof elect to purchase the said buildings and fixtures that may then be in or upon the said land on giving to the Lessee one calendar months previous notice in writing of such his intention and the price shall in case of dispute be determined by the Executive Engine of the said district according to the actual value of such buildings and fixtures and his decision shall be final and conclusive and altogether binding upon the Lessee:

**IN WITNESS WHEREOF** COLLECTOR acting for and on behalf of the **GOVERNMENT OF THE UNION OF BURMA** and U Kyaw Win have hereunto set their hands.

**THE SCHEDULE ABOVE REFERRED TO**

All that piece of land situate in the Paung Laung Qr: ward of the town of Pyinmana known as lot No. 2222, 2223, 2230, 2231 in block No. 32 containing 0.396 or thereabouts bounded as follows :

North Lane No - (27)

East No - 2224 + 2229

South Lane No - (26)

West Lane

and shown in the annexed plan marked red.

Signed by the said Collector in the presence of Daw Khin Mya Soe

Witnesses.

ဦးစိုးထရုဠ် (ခရိုင်)
ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ရမည်းသင်းမြို့

*Deputy Commissioner*

ခရိုင်အုပ်ချုပ်ရေးမှူး
ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ရမည်းသင်းမြို့

Signed by the said U Kyaw Win in the presence of U Win Mg

*Witness*

*Signature of Lessee*

မြေစာရင်းပုံစံ - ၁၀၆

# ဦးပိုင်တစ်ခု၏ရာဇဝင်

ခရိုင်၊ ရမည်းသင်း ၊ မြို့နယ်၊ ပျဉ်းမနား ၊ မြေတိုင်းစာရေးအုပ်စု (၇) ၊ ကွင်းအမှတ်နှင့်အမည် ၊ ပေါင်းလောင်း (၂)

| ခုနှစ် | ဦးပိုင် | အခွန်စည်းကြပ်ခံရသူ ပိုင်ရှင်အမည်၊ ဂရန်ရှင် အငှားဂရန်ရှင် | ပိုင်ဆိုင်ခွင့် | မြေမျိုးနှင့် အတန်းအစား | ဧရိယာ (ဧက) | အခွန်တော်သင့်ငွေ နိုင်ကြေးအပါအဝင် (ကျပ်) | မည်ကဲ့သို့ ပြောင်းလဲသွားသည့် ညွှန်ပြချက် | မှတ်ချက် |
|---|---|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |
| ၁၉၉၉ | ၂၂၂၂ | ဒေါ်ရှမ်း | | | ၀.၀၉၉ | | ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့ရုံး၏ ၂၂-၁၁-၈၈ | |
| " | ၂၂၂၃ | ဦးမဟာနွယ် | | | ၀.၀၉၉ | | နေ့စွဲပါစာအမှတ် ၁၀/၆၀၁ဆ/အ. ဖ. ရ ဖြင့် ၁၉-၄-၉၀ | |
| " | ၂၂၃၀ | ဒေါ်ကျင် | | | ၀.၀၉၉ | | တ. ဝ. တ အစည်းအဝေးအမှတ်စဉ် ၄/ ၉၀ အရ/မြို့မြေ | |
| " | ၂၂၃၁ | ဦးနီးငြိမ်း | | | ၀.၀၉၉ | | အဖြစ်သတ်မှတ်သည်။ | |
| | | | | | ၀.၃၉၆ | | | |
| ၁၉၉၉ | ၂၂၂၂ + ၂၂၂၃ ၂၂၃၀ + ၂၂၃၁ | ဦး ကျော်ဝင်း | L | | ၀.၃၉၆ | | ခရိုင်ရုံးအခွန်တော်အမှုအမှတ် (၁၀) အရ ... ဥက္ကဋ္ဌ ... (၁၁) ရက်နေ့မှ ... (၁၀) ရက်နေ့တိုင် ဦး ကျော်ဝင်းအား ... (၃၀) နှစ်ငှား ... သည်။ | |

လျှောက်ထားသူအမည် - ဦး ကျော် ဝင်း
လျှောက်လွှာတင်သည့်နေ့စွဲ - ၂၀. ၁၀. ၉၉
လျှောက်သူသို့လက်ခံပေးသည့်နေ့စွဲ - ၂၀. ၁၀. ၉၉
ရေးကူးပေးသည့်အကြောင်းအရာ - ... ပေါ်ပြပါအကြောင်းအရာအတွက်သာ အသုံးပြုခွင့်ရှိသည်။

အထက်ပါရေးကူးဖော်ပြသော အကြောင်းအရာတို့မှာ ၁၉၉၉ ခုနှစ်အတွက် နှစ်စဉ် နောက်ဆက်တွဲ တိုင်းတာခြင်းမြေပုံစာရင်းများတွင် ပါရှိသည့်အတိုင်း အမှန် လက်ခံရေးကူးကြောင်း သက်သေခံပါသည်။

အမှုတွဲထိန်း/မြေတိုင်းစာရေးလက်မှတ် -
နေ့စွဲ - မြေတိုင်း( ၄ )
တိုက်ဆိုင်စစ်ဆေးပြီး မှန်ကန်ပါသည် - အုပ်စုအမှတ်( ၇ )
လက်ထောက်ဦးစီးမှူး လက်မှတ် - မြို့နယ်မြေစာရင်း ... ဌာန
နေ့စွဲ - ပျဉ်းမနားမြို့

၂၀၁၀၁၉၉

မြို့နယ် မြေစာရင်းဦးစီးဌာနမှူး၊
ပျဉ်းမနားမြို့။

LAND REVENUE 11

Lease

*Entered in land Register 3 (Volume ) Page*

*Revenue Proceedings No. 101 of 1999 ~~-~~ 2000 District Office*

*FORM OF LEASE OF TOWN LANDS WITH POWER OF RENEWAL UP TO NINETY YEARS*

*(Rule 51 A of the Rules under the U.B. Land and Revenue Regulation 1889)*

*(Rule 29 of the Rules under the L.B. Town and Village Lands act, 1808)*

THIS LEASE made the 11th day of August one thousand nine hundred and ninety nine BETWEEN **THE GOVERNMENT OF THE UNION OF BURMA** ( hereinafter called " the Lessor " which expression shall be taken to mean and include the said Government of the Union of Burma and his successors in office and assigns except when the context requires another and different meaning ) of the one part: **AND** — U Kyaw Win Paung Laung (2) Qr: of Pyinmana Son of U Aung Myo hereinafter called " the Lessee " which expression shall be taken to mean and Include the said U Kyaw Win his heirs executors administrators representatives and assigns except when the context requires another and different meaning) of the other part: **WITNESSETH** that in consideration of the rent hereinafter reserved and of the covenants by the Lessee hereinafter contained the Lessor **DOTH** hereby lease unto the Lessee all that piece of land described in the schedule hereto together with all rights easements and appurtenances to the same belonging save and except all mines and mineral products buried treasure coal petroleum oil and quarries whatsoever in under or within the said land with liberty for the Lessor and his lessees licensees agents and workmen and all other persons acting on his behalf to dig search for obtain and carry away the same on making reasonable compensation to the Lessee on account of any disturbance or damage that may be caused thereby to the surface of the said land and that such compensation shall in case of dispute be determined by the Deputy Commissioner of Yamethin as nearly as may be in accordance with the provisions of the Land Acquisition Acts or Regulations for the time being in force **TO HOLD** the said land unto the Lessee for the term of thirty years from the date of this lease * with the option for the Lessee to renew this lease for two successive terms of thirty years ! as hereinafter provided* **YIELDING** and **PAYING** therefor the clear yearly rent of Kyat 2880/- Ks payable in advance on the third day of January of each year and the Lessee doth hereby to the intent that the burden of the covenants may run with the said land and may bind the owners thereof for the time being covenant with the Lessor:

1. To pay the said rent on the days and in the manner hereinbefore appointed for payment thereof and also to pay all texes rates and assessments that now are or may hereafter during the said term be imposed upon the said land or any buildings that may be erected thereon of upon the Lessee in respect thereof.

* * The word " with the option ________. hereinafter provided " should be emitted the second renewal.

! ! The words " a further term of thirty years " should be substituted at the first renewal.

penalties in the same manner as arrears of revenue on land may be recovered.

8. That the said Deputy Commissioner and all persons acting under his orders shall be at liberty at all reasonable times in the day time during said term to enter upon the said land or any buildings that may be erected thereon for any purpose connected with this lease.

9. At the expiration of the said term hereby granted quietly to surrender and deliver up possession of the said land but not the buildings or fixtures that may then be thereon to the Lessor provided that if the Lessor shall re - enter upon the said land and determine this lease under clause 10 hereof the Lessee shall thereupon quietly deliver up possession of the said land and buildings and fixtures that may then be thereon to the Lessor:

10. **PROVIDED** always that if the said rent or any part thereof shall be in arrear and unpaid for one calendar month after the same shall have become due whether the same shall have been demanded or not or if the Lessee shall not observe and perform the covenants hereinbefore contained the said Deputy Commissioner may immediately and notwith standing the waiver of any previous breach or right of re-entry cancle thislease and take possession of the land and the buildings and fixtures that may then be thereon.

And the Lessor doth hereby covenant with the Lessee -

11. That the Lessee may at the expiration of the said term hereby tranted if this lease shall not have been previously cancelled under clause 10 hereof and if the Lessee shall have paid the said rent and duly observed and performed the covenants by the Lessee herein contained up to the expiration of the said term take away and dispose of all buildings and fixtures that may then be erected and fixed to the said land provided that Lessee makes good and repairs any damage that may be caused to the said land by such removal.

12. That if the Lessee shall be desirous of taking a renewed lease of the said piece of land for the further term of thirty years from the expiration of the said term hereby granted and of such desire shall prior to the expiration of such last mentioned term give to the Lessor three calendar months previous notice in writing and shall pay the rent hereby reserved and observe and perform the several covenants and conditions hereby contained and on the part of the Lessee to be observed and performed up to the expiration of the said term hereby granted the Lessor will upon the request andat the expense of the Lessee and upon his signing and delivering to the Lessor a counterpart thereof sign and deliver to the Lessee a renewed lease of the said piece of land for a further term of thirty years at a rent to be fixed by the Lessor and under and subject to similar covenants and provisions or such of them as shall be then subsisting or capable of taking effect privided that a lease for a third term of thirty years shall not contain this prosent covenant or renewal.

မြေစာရင်းပုံစံ (၁၀၅)

မှန်ကြောင်း ~~သက်သေမခံ~~ / သက်သေခံသော လက်ရှိမြေပုံတွင် ယခုနှစ် အသုံးပြုသော ဦးပိုင်မြေပုံ လက်ခံကူးယူရန်ပုံစံ ။

ငါးကျပ် K5

| | |
|---|---|
| ခရိုင် - ရမည်းသင်း |  |
| မြို့နယ် - ပျဉ်းမနား | |
| ရပ်ကွက် / ~~ကျေးရွာအုပ်စု~~ ရွာကောက် | |
| ~~ကွင်း~~/ အကွက်အမှတ်နှင့်အမည် ၃၁/ ဟေ်င်ကောင်း (၆) | |
| ဦးပိုင်အမှတ် ၂၂၂၄+၂၂၂၅+၂၂၂၆ ၂၂၂၇+၂၂၂၈+၂၂၂၉ | |



| ဦးပိုင် အမှတ် | အခွန်စည်းကြပ်ခံရသူ ပိုင်ရှင်အမည်၊ ဂရန်ရှင် အငှားဝရန်ရှင် | ပိုင်ဆိုင်ခွင့် | မြေမျိုးနှင့် အတန်းအစား | ဧရိယာ (ဧက) | မှတ်ချက် |
|---|---|---|---|---|---|
| ၂၂၂၄ | | | | ၀.၀၉၉ | ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့ရုံး၏ ၂၂-၁၀-၈၈ |
| ၂၂၂၅ | | | | ၀.၀၉၉ | နေ့စွဲပါစာအမှတ် ၁၀/၆၀၁ဆ/အ. ဖ. ရ ဖြင့် ၁၉-၄-၉၀ |
| ၂၂၂၆ | ဦးကျော်ဝင်း | L | | ၀.၀၉၉ | တ. ဝ. တ အစည်းအဝေးအမှတ်စဉ် ၄/ ၉၀ အရ/မြို့မြေ |
| ၂၂၂၇ | | | | ၀.၀၉၉ | အဖြစ်အသုံးပြုသည်။ |
| ၂၂၂၈ | | | | ၀.၀၉၉ | ဘိုင်ဂျုံးအခွန်တော်အမှုအမှတ် (၁၀၁) ၁၉၉၈ / ၂၀၀၀ ခုနှစ်အရ |
| ၂၂၂၉ | | | | ၀.၀၉၉ | ၁၀၀ အောင်မြင်တယ် (၁၁) ရက် မှ ၂၀၀၀ ပြည့် (၁၀) ရက်ထိ |
| | | | | | ဦးကျော်ဝင်း အမည်ဖြင့် ဒါ (၃၀) ရက် ချထားပေးသည် ။ |
| | | | | ၀.၅၉၄ | |

ရေးကူးပေးသည့် အကြောင်းအရာ - [illegible]
(ဖော်ပြပါ အကြောင်းအရာအတွက်သာ အသုံးပြုခွင့်ရှိသည်)

လျှောက်ထားသူအမည် - ဦးကျော်ဝင်း

လျှောက်လွှာတင်သည့်နေ့စွဲ - ၂၀.၁၀.၉၉

လျှောက်သူသို့ လက်ခံပေးအပ်သည့် နေ့စွဲ - ၂၀.၁၀.၉၉

ယခု အထက်တွင်ပြဆိုသော မြေပုံမှာ မှန်ကန်သေချာစွာ ရေးကူးသော ၁၉၉၉ ခုနှစ်၊ အတွက် နောက်ဆက်တွဲ တိုင်းတာခြင်း မြေပုံ ဖြစ်ကြောင်း သက်သေခံ လက်မှတ်ရေးထိုးပါသည်။

အမှုတွဲထိန်း / မြေတိုင်းစာရေးလက်မှတ် -

နေ့စွဲ -

တိုက်ဆိုင်စစ်ဆေးပြီးမှန်ကန်ပါသည် -

မြေတိုင်း ( ၄ )
( ၇ )

ရုံးတံဆိပ်

လက်ထောက်ဦးစီးမှူးလက်မှတ် -

နေ့စွဲ -

လက်ထောက်ဦးစီးမှူး

၂၀/၁၀/

မြို့နယ် မြေစာရင်း ဦးစီးဌာနမှူး၊
ပျဉ်းမနားမြို့

မြေစာရင်းပုံစံ - ၁၀၆

# ဦးပိုင်တစ်ခုစီ၏ရာဇဝင်

........ ခရိုင်၊ ရမည်းသင်း ၊ မြို့နယ်၊ ပျဉ်းမနား ၊ မြေတိုင်းစာရေးအုပ်စု၊ (၇) ၊ ကွင်းအမှတ်နှင့်အမည် ၊ ပေါင်းလောင်း (၂)

| ခုနှစ် | ဦးပိုင် | အခွန်စည်းကြပ်ခံရသူ ပိုင်ရှင်အမည်၊ ဂရန်ရှင် အငှားဂရန်ရှင် | ပိုင်ဆိုင်ခွင့် | မြေမျိုးနှင့် အတန်းအစား | ဧရိယာ (ဧက) | အခွန်တော်သင့်ငွေ နိုင်ကြေးအပါအဝင် (ကျပ်) | မည်ကဲ့သို့ ပြောင်းလဲသည့် ညွှန်ပြချက် | မှတ်ချက် |
|---|---|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |
| ၁၉၉၈ | ၂၂၂၄ | ဦး တင်ဝင်း | | | ၀.၀၉၉ | | ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့ရုံး၏ ၂၂-၁၀-၈၈ | |
| " | ၂၂၂၅ | ဒေါ်တင် | | | ၀.၀၉၉ | | နေ့စွဲပါစာအမှတ် ၁၀/၆၀၁ဆ/အ. ဖ. ၅ ဖြင့် ၁၉-၄-၉၀ | |
| " | ၂၂၂၆ | ဦး သန်းဆွေ | | | ၀.၀၉၉ | | တ. ၀. တ အစည်းအဝေးအမှတ်စဉ် ၄/ ၉၀ အရ/မြို့မြေ | |
| " | ၂၂၂၇ | " သန်းလှိုင် | | | ၀.၀၉၉ | | အဖြစ်သတ်မှတ်သည်။ | |
| " | ၂၂၂၈ | " သိန်းညွန့် | | | ၀.၀၉၉ | | | |
| " | ၂၂၂၉ | " ပု | | | ၀.၀၉၉ | | | |
| | | | | | ၀.၅၉၄ | | | |
| ၁၉၉၉ | ၂၂၂၄+၂၂၂၅+၂၂၂၆+ ၂၂၂၇+၂၂၂၈+၂၂၂၉ | ဦး ကျော်ဝင်း | ၂ | | ၀.၅၉၄ | | ခရိုင်ရုံး အခွန်တော်အမှုအမှတ် (၁၀၁) ၁၉၉၉ /၁၀၀၀ ၁၉၉၉ခု ......... ရက် မှ ......... ရက်တိ ဦး ကျော်ဝင်း အမည်ဖြင့် ......... | |

လျှောက်ထားသူအမည် - ဦး ကျော်ဝင်း

လျှောက်လွှာတင်သည့်နေ့စွဲ - ၂၀. ၁၀. ၉၉

လျှောက်သူသို့လက်ခံပေးသည့်နေ့စွဲ - ၂၀. ၁၀. ၉၉

ရေးကူးပေးသည့်အကြောင်းအရာ - .........

ပေါ်ပြပါအကြောင်းအရာအတွက်သာ အသုံးပြုခွင့်ရှိသည် ။

အထက်ပါရေးကူးပေါ်ပြသော အကြောင်းအရာတို့မှာ ၁၉၉၉ ခုနှစ်အတွက် နှစ်စဉ် နောက်ဆက်တွဲ တိုင်းတာခြင်းမြေပုံ စာရင်းများတွင် ပါရှိသည့်အတိုင်း အမှန် လက်ခံရေးကူးကြောင်း သက်သေခံပါသည် ။

အမှုတွဲထိန်း/မြေတိုင်းစာရေးလက်မှတ် -

နေ့စွဲ -

တိုက်ဆိုင်စစ်ဆေးပြီး မှန်ကန်ပါသည် -

လက်ထောက်ဦးစီးမှူး လက်မှတ် -

နေ့စွဲ -

မြို့နယ် မြေစာရင်း ဦးစီးဌာနမှူး၊ ပျဉ်းမနားမြို့

# ထောက်ခံစာ

ပျဉ်းမနားမြို့ ပေါင်းလောင်း (၂) ရပ်ကွက် တွင် အညွှန်းပြ မြေပုံအရ စက်မှုစီးပွားရေးလုပ်ငန်းများ တည်ရှိဖော်ပြမှု မှာ မှန်ကန်ပါကြောင်း သိရှိ ထောက်ခံအပ်ပါသည်။

၂၀.၁၁.၉၉

[illegible]
စည်ပင်သာယာရေးနှင့်မြို့ပြရေးကော်မတီ
ငွေကောက်ရပ်ကွက်
ပျဉ်းမနားမြို့



(100'-0")
20'-0"
20'-0"
20'-0"
20'-0"
20'-0"
M.S
M.S
TIMBER PROCESSING SECTION
KILN DRYER SECTION (20'x50')
DOOR AND MOULDING SECTION
PARQUET AND FINGER JOINT SECTION
FURNITURE ASSEMBLING SECTION
PACKAGE SECTION
MANAGER & STAFF ROOM (20'x50')
W3
50'-0"
50'-0"
50'-0"
50'-0"
50'-0"
(250'-0")
FLOOR PLAN
SCALE 1" = 25 ft
12"x15" R.C COLUMN




SITE LOCATION

1" x 320 YD




LAYOUT PLAN

SCALE. 1" = 60 FT

ပျဉ်းမနားမြို့ ပေါင်းလောင်းရွက်သစ် (၂) ရပ်ကွက်
နှင်းဆီလမ်းနှင့်ဇော်ဂျီလမ်းကြား ၊ (၂၆) လမ်း နှင့် (၂၇) လမ်းကြားရှိ
သစ်အချောထည်နှင့် ပရိဘောဂထုတ်လုပ်ရန် ဆောက်လုပ်မည့် စက်ရုံပုံစံ



ပျဉ်းမနားမြို့ ပေါင်းလောင်းကွက်သစ် (၂) ရပ်ကွက်
နှင်းဆီလမ်းနှင့်ဝဝါလမ်းကြား ၊ (၂၆) လမ်း နှင့် (၂၇) လမ်းကြားရှိ
သစ်အချောထည်နှင့် ပရိဘောဂထုတ်လုပ်ရန် ဆောက်လုပ်မည့် စက်ရုံပုံစံ



ရှေ့မြင်မတ်ရပ်ပုံ

| | |
|---|---|
| owner | |
| project | STREET |
| BLOCK NO | |
| LOT NO | |
| | TOWNSHIP |
| Subject | FRONT VIEW |
| scale | $\frac{1}{16}'' = 1'$ |
| date | |
| sheet no | |

ပျဉ်းမနားမြို့ ပေါင်းလောင်းကွက်သစ် (၂) ရပ်ကွက်
နှင်းဆီလမ်းနှင့်ငုဝါလမ်းကြား ၊ (၂၆) လမ်း နှင့် (၂၇) လမ်းကြားရှိ
သစ်အချောထည်နှင့် ပရိဘောဂထုတ်လုပ်ရန် ဆောက်လုပ်မည့် စက်ရုံပုံစံ



# ယာမြင်မတ်ရပ်ပုံ

| | | |
|---|---|---|
| owner | | |
| project | STREET | |
| | BLOCK No | |
| | LOT No | |
| | TOWNSHIP | |
| subject | RIGHT SIDE VIEW | |
| Scale | 1/16" = 1' | sheet no |
| date | | |

ပျဉ်းမနားမြို့ ပေါင်းလောင်းကွက်သစ် (၂) ရပ်ကွက်
နှင်းဆီလမ်းနှင့်ငုဝါလမ်းကြား ၊ (၂၆) လမ်း နှင့် (၂၇) လမ်းကြားရှိ
သစ်အချောထည်နှင့် ပရိဘောဂထုတ်လုပ်ရန် ဆောက်လုပ်မည့် စက်ရုံပုံစံ



ဝဲမြင်မတ်ရပ်ပုံ

| | | |
|---|---|---|
| owner | | |
| project | STREET No | |
| | BLOCK NO | |
| | LOT NO | |
| | TOWNSHIP | |
| Subject | LEFT SIDE VIEW | |
| Scale | $\frac{1}{16}'' = 1'$ | sheet no |
| date | | |

ပျဉ်းမနားမြို့ ပေါင်းလောင်းကွက်သစ် (၂) ရပ်ကွက်
နှင်းဆီလမ်းနှင့်ငုဝါလမ်းကြား ၊ (၂၆) လမ်း နှင့် (၂၇) လမ်းကြားရှိ
သစ်အချောထည်နှင့် ပရိဘောဂထုတ်လုပ်ရန် ဆောက်လုပ်မည့် စက်ရုံပုံစံ



# နောက်မြင်မတ်ရပ်ပုံ

| | | |
|---|---|---|
| owner | | |
| | | STREET |
| project | BLOCK NO | |
| | LOT NO | |
| | | TOWNSHIP |
| Subject | BACK VIEW | |
| scale | $\frac{1}{16}$" = 1' | sheet no |
| date | | |

C B BANK
(PYINMANA)

CO-OPERATIVE BANK LTD.

Co-operative Bank Ltd. ★ Pyinmana ★

No. 334 / 336, Corner of 23rd Street and Strand Road, Yangon, Myanmar. TEL : (95-1) 272 641 / 272 655 / 272 659 / 277 027, FAX : (95-1) 280 024

No. 1264

Date. 25 - Oct - 1999

To

U Kyaw Win
12/TaMaNa(N)-009611
A/C No.0372000105
NO.1033, 1 st, Paung Laung, Pyinmana.

Dear Sir,

We hereby certify that the balance standing at the credit of the account of **U Kyaw Win** with CO-OPERATIVE BANK LIMITED PYINMANA at the close of business on the 25.10.99 was K-150,30,000/- ( Kyats One hundred fifty Lakh thirty thousand only )

Yours Faithfully,

Asst: Manager
Co-operative Bank Ltd.
Pyinmana.

Manager
Co-operative Bank Ltd.
Pyinmana.

YOMA BANK
your bank

25th,Oct,1999

Ref :No.25/YMB/PMN/99-2000

To Whom it May Concern

Upon request of the Account Holder mentioned hereunder, we certify that the said account has a balance of the stated sum at the close of business on the said date.

This certification is given without responsibility to our bank or its officers.

| Name and Number of Account | Date | Balance in Account |
|---|---|---|
| U WIN NAING TUN 30-3101086 | 25-10-99 | 10,162,600.00 |
| Balance in Words: Ks- Ten million one hundred sixty two thousand six hundred only. | | |

Yours faithfully

25/x/99

( U AUNG SEIN TUN )
MANAGER
PYINMANA BRANCH

Manager
YOMA BANK LTD:
Pyinmana Branch:

ရိုးမဘဏ်
သင့်ဘဏ်

No.1 Kun Gyan Road, Mingalar Taung Nyunt Township, Yangon, Myanmar.
Tel: (01) 701496, 701492, 277460, 242138, 246547 Fax: (01) 249005, 249241, 240051

